# ကုရ်ဘာနီ၏ ထူးမြတ်မှုများနှင့် ပညတ်ချက်များ

ပြုစုသူ

မုသကာလ္လိမေအစ္စလာမ် ဟာဖ်ိရည် မော်လာနာ
မုဟာမ္မဒ် အိလ်ယားစ် ဂွမ္မန်(حفظه الله)

ပြန်ဆိုသူ

Ahnaf Media Services-Myanmar ဝိုင်းတော်သားများ

ကုရ်ဘာနီ၏ အရေးကြီးပုံ

<>°¡<>°<>°<>°<>°

ကုရ်ဘာနီဆိုသည်မှာ အလွန်ကြီးကျယ်မြင့်မြတ်
လှသော အေဗာဒသ်တခုဖြစ်လေသည်။ တမန်
တော်အာဒမ်(عليه السلام)၏ ခေတ်အခါသမယ
မှ အစပြုကာ အွမ္မသ်တိုင်း ၌ ဤ အမလ်သည်
သတ်မှတ်ခြင်းခံခဲ့ရသည်မှာ' အွမ္မသေမုဟမ္မဒီ
ယာဟ် 'ထိတိုင်ဖြစ်ချေသည်။

ကျမ်းတော်မြတ်ကုရ်အာန် တစ်နေရာတွင်လာရှိသည်မှာ

وَلِكُلِّ أُمَّةٍ جَعَلْنَا مَنسَكًا لِّيَذْكُرُوا۟ ٱسْمَ ٱللَّهِ عَلَىٰ مَا رَزَقَهُم مِّنۢ بَهِيمَةِ ٱلْأَنْعَٰمِ ۗ {الحج: ٣٤}

အဓိပ္ပါယ်။

စင်စစ် ငါအရှင်မြတ်သည် သာသနာဝင်အုပ်စုတိုင်းအဖို့
၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ နာမတော်အား ထို
အရှင်မြတ်က မိမိတို့အား အစားအစာအဖြစ် ချီးမြှင့်တော်
မူခဲ့သော ခြေလေးချောင်းတိရစ္ဆာန်များ အပေါ်၌ တသ
ကြရန် ကုရ်ဘာနီပြုခြင်းကို သတ်မှတ်ပြဌာန်းတော်မူခဲ့သည်။

ဤအတွက်ကြောင့် ကုရ်ဘာနီ အား ' စွန္နသေအိဗ်ရာဟင်းမ် ဟုခေါ် ဆိုကြပေသည်။အဘယ်ကြောင့်ဆိုသော် တမန်တော် အိဘ်ရာဟီးမ် သခင်)သည် အလ္လာဟ်အသျှင်မြတ် သခင်)အ ဖို့သာမိမိ၏ သားတော်မောင် အိစ္စမာအီးလ်(عليه السلام)အား ကုရ်ဘာနီပြုရန်ဆက်သတော်မူခဲ့သည်။ထိုသို့လုပ်ရပ်တော်အား အောင့်မေ့သတိရခြင်းကြောင့် နှစ်စဉ်နှစ်တိုင်းတွင် မွစ်လင်မ် တို့သည် ကုရ်ဘာနီပြုကြသည်။

ဤကုရ်ဘာနီမှ မွစ်လင်မ်တို့အဖို့အကြီးမားဆုံးသောသင်ခန်း စာမှာ မိမိအားမွေးမြူသောအရှင်၏ အမိန့်အား မြေ၀ယ်မကျ နာခံခြင်းနှင့် အရှင်၏အမိန့်တော်၌ အရာတိုင်းအား စွန့်လွှတ် စတေးရန်အသင့်ရှိကြောင်းနှင့် မိမိတို့ရဲ့ပိုင်ဆိုင်မှုဥစ္စာပစ္စည်း ၏ အချစ်တို့အား စွန့်လွှတ်ကာ အလ္လာဟ်အသျှင်မြတ်သခင် ၏အချစ်အား နှလုံးသားတည်း၌ မွေးမြူကြလေသည်။

ကုရ်ဘာနီအချိန်တွင်လည်း မှတ်သားထားရမည့်အချက်တစ် ချက်မှာ ကုရ်ဘာနီ ကဲ့သို့ပင် အခြားသော အေဗာဒသ်ပြုချိန် တွင်လည်း အလ္လာဟ်အသျှင်မြတ်သခင်၏ ကျေနပ်နှစ်သက် မှု အတွက်သာ ပြုရမည်။

အလ္လာဟ်အသျှင်မှအပ အခြားသောသူများအတွက်
အေဗာဒသ်ပြုရန် နှလုံးသားတည်း၌အနံ့အသက်ပင်မရှိရပေ။
မွစ်လင်မ်တို့၏ ဘ၀သည် ဤအာယသ်ကဲ့သို့ ဖြစ်ရပေမည်။

ان صلاتي ونسكي ومحياى ومماتي لله رب العلمين

{الانعام: ١٦٢}

အဓိပ္ပါယ်။ ။

ကေန်မုချ ကျွန်ုပ်၏ နမားဇ်၊ ကျွန်ုပ်၏ ကုရ်ဘာနီ၊ ကျွန်ုပ်၏ ရှင်သန်ခြင်းနှင့် ကျွန်ုပ်တို့ ၏ သေဆုံးခြင်းသည် အရာခပ်သိမ်းအား ဖန်ဆင်းတော်မူသော အလ္လာဟ်အသျှင်မြတ်အဖို့ သာ ဖြစ်ကုန်၏

ကုရ်ဘာနီ၏အရေးကြီးပုံသည် ဤအချက်မှာပေါ်လွင်ထင်ရှားကြောင်း မြတ်နဗီ (ﷺ)မှ ထောက်ခံခဲ့သည်။ ဟဇရသ် အဗ်ဒုလ္လာဟ်ဘင်န်အုမရ်(ရသေ္မ)သခင် အမိန့်ရှိသည်။

اقام رسول الله صلى الله عليه وسلم بالمدينةعشرسنين يضحي
(جامع الترمذى ج ١ ص ٤٠٩ ابواب الاضاحى)

အဓိပ္ပါယ်။ ။

တမန်တော်မြတ်(ﷺ)သည် မဒီနာရွှေမြို့တော်၌၁၀နှစ်မျှ နေထိုင်တော်မူခဲ့ပေသည်။(ထိုကာလအတွင်း)မြတ်နဗီ(ﷺ) သည် ကုရ်ဗာနီပြုလုပ်လျက်ရှိခဲ့သည်။



ကုရ်ဘာနီ၏ ထူးမြတ်မှု

~ · ~ · ~ · ~ · ~ · ~ ·

များစွာသော ဟဒီးဆ်ဩဝါဒတော်များ၌ ကုရ်ဘာနီ၏ ထူးမြတ်မှုများ လာရှိသည့်အနက် အချို့မှာ

(1)عَنْ زَيْدِ بْنِ أَرْقَمَ قَالَ: قَالَ أَصْحَابُ رَسُولِ اللَّهِ صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ يَا رَسُولَ اللَّهِ مَا هَذِهِ الأَضَاحِيُّ قَالَ: ((سُنَّةُ أَبِيكُمْ إِبْرَاهِيمَ)) . قَالُوا فَمَا لَنَا فِيهَا يَا رَسُولَ اللَّهِ قَالَ: ((بِكُلِّ شَعَرَةٍ حَسَنَةٌ)). قَالُوا فَالصُّوفُ يَا رَسُولَ اللَّهِ قَالَ: ((بِكُلِّ شَعَرَةٍ مِنَ الصُّوفِ حَسَنَةٌ)).
(سنن ابن ماجه: ٢٢٦ باب ثواب الاضحية )

ဟဇရသ် ဇိုက်ဒ်ဘင်န်အရ်ကမ်(ရသွေ)အမိန့်ရှိတော်မူသည်။ တမန်တော်မြတ် (ﷺ)၏ ဆွာဟာဗာတို့သည် မေးမြန်းခဲ့ကြသည်မှာ ' အိုအလ္လာဟ်၏ရစူလ် '!ဤကုရ်ဘာနီ ဆိုသည်မှာ အဘယ်နည်းဟုမေးမြန်းရာ မြတ်နဗီ(ﷺ)က အမိန့်ရှိတော်မူသည်။အသင်တို့၏ဖခင်ဖြစ်သောအိဗ်ရာဟင်းမ်(ع)၏ စွန္နသ်တော်ဖြစ်သည်။ ထိုအခါ ဆွဟာဗာ သာဝကများသည် ဆက်လက်၍" ကျွန်ုပ်တို့ ကုရ်ဗာနီပြုခြင်းဖြင့် မည်သည့်အရာများ ရရှိပါမည်နည်း?မေးမြန်းကြရာ မြတ်နဗီ(ﷺ)က (သားကောင်)၏အမွေးအမျှင်တိုင်း၏အစားတွင် ကောင်းမှုတခုရရှိမည်။ တဖန်ဆွဟာဗာသာဝကြီးတို့မှယာရစူလလ္လာဟ်!သိုးအတွက် (မည်သည့်အရာရရှိရမည်နည်း?) ကိုယ်တော်မြတ် (ﷺ)က မိန့်ခြွေတော်မူသည်မှာ သိုး၏အမွေးအမျှင်တိုင်း၏ အစားတွင်လည်း ကောင်းမှုများရရှိပေမည်။

(2)عَنْ عَائِشَةَ أَنَّ رَسُولَ اللَّهِ صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ قَالَ:
((مَا عَمِلَ آدَمِيٌّ مِنْ عَمَلٍ يَوْمَ النَّحْرِ أَحَبَّ إِلَى اللَّهِ مِنْ إِهْرَاقِ الدَّمِ إِنَّهَا لَتَأْتِي يَوْمَ الْقِيَامَةِ بِقُرُونِهَا وَأَشْعَارِهَا وَأَظْلاَفِهَا وَإِنَّ الدَّمَ لَيَقَعُ مِنَ اللَّهِ بِمَكَانٍ قَبْلَ أَنْ يَقَعَ مِنَ الأَرْضِ فَطِيبُوا بِهَا نَفْسًا)).
(جامع الترمذي: ج ١ ص ٢٧٥ باب ماجاء في فضل الاضحية)

ဟဇရသ်အာအေရှာ်(ရသေ္ဓ)သခင်မ ဆင့်ပြန်တော်မူသည်။ တမန်တော်မြတ် (ﷺ) အမိန့်ရှိတော်မူသည်။ "အီဒွလ်အသ္ဟာနေ့မြတ်တွင်အလ္လာဟ်အသျှင်မြတ်သခင်၏ထံတော်ပါး၌ ကုရ်ဘာနီသွေးစီးဆင်းစေခြင်းထက် သာပို၍ နှစ်သက်သော အမလ်ဟူ၍မရှိ။ ၎င်းအပြင် ကေယာမသ်နေ့တွင် ကုရ်ဘာနီသားကောင်သည် မိမိ၏ အမွေးအမျှင်၊ ဦးချိုနှင့် မိမိတို့၏ခွာဖြင့် တစုတစည်းတည်းရောက်ရှိလာပေမည်။ ကုရ်ဘာနီသားကောင်၏ သွေး မြေမခမီ အလျင်အလ္လာဟ်အသျှင်မြတ်လက်ခံကဗူလ်ပြုတော်မူပေမည်။ ဤအတွက်ကြောင့် ပျော်ရွှင်စွာ ကုရ်ဘာနီပြုကြပါ။"

(3)عن ابن عباس رضى الله عنه قال: قال رسول الله صلعم ماانفقت الورق فى شيئ افضل من نحيرة فى يوم العيد)).(سنن الدار قطنى: ٧٧٤ باب الذبائح، السنن الكبرى للبيهقي ج٩ ص ٢٦١)

ဟဇရသ် အိဗ်နေအဗ္ဗားစ်(ရသေ္ဓ) သခင် ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ်(ﷺ)မိန့်ခြွေတော်မူသည်မှာအလ္လာဟ်အရှင်မြတ် ထံတော်ပါး၌ မည်သို့သော ကုန်ကျခံ သုံးစွဲခြင်း၏ ထူးမြတ်မှုသည် 'အီဒွလ်အသ္ဟာ'နေ့မြတ်တွင် ကုရ်ဘာနီအပေါ် ကုန်ကျခံသုံးစွဲခြင်း၏ အကျိုးကျေးဇူးထက် သာပို၍ မမြတ်လှပေ။"

ကုရ်ဘာနီမည့်သူအပေါ်၌ ဝါဂျိဗ်ဖြစ်သနည်း?
~~~~~~~~~~~~~~~~~~~~~~~~~~~~~~~

အကြွင်အမျိုးသား/သမီး သည် အောက်ဖော်ပြပါ
အချက်အလက်များအား လက်ဝယ်ပိုင်ဆိုင်ပါက
ကုရ်ဘာနီပြုရန် ၎င်းသူ/သူမအပေါ်၌ဝါဂျိဗ်ဖြစ်သည်။

(၁) မွစ်လင်မ်ဖြစ်ခြင်း။
အထောက်အထား
لانها قربة والكافر ليس من اهل القرب.(بدائع الصنائع ج:٤. ص: ١٩٥)
အဓိပ္ပါယ်။ ကုရ်ဘာနီသည် အေဗာဒသ်နှင့် အသျှင်နှင့် နီးစပ်စေသော အရာတစ်ခုဖြစ်သည်။
ကာဖိရ်သည် အေဗာဒသ်ပြုခြင်းနှင့် အသျှင်နှင့် နီးစပ်ခြင်းတို့နှင့် ထိုက်တန်သူများမဟုတ်ပေ။

(၂) လွတ်လပ်သူဖြစ်ခြင်း။
အထောက်အထား
لان العبد لايملك (البحرالرائق ج: ٢. ص: ٢٧١ )
အဓိပ္ပါယ်။
ကုရ်ဘာနီသည် ကျွန် အပေါ်၌ တာဝန်မရှိချေ။
အဘယ်ကြောင့်ဆိုသော် ၎င်းသည် မည်သည့်အရာကိုမျှ ပိုင်ဆိုင်သူမဟုတ်ပေ။
~~~~~~~~~~~~~~~~~~~~~~~~~~~~~~~

(၃) ကုရ်ဘာနီတာဝန်ထိုက်သူဖြစ်ခြင်း။
အထောက်အထား
عَنْ أَبِي هُرَيْرَةَ أَنَّ رَسُولَ اللَّهِ صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ قَالَ: ((مَنْ كَانَ لَهُ سَعَةٌ وَلَمْ يُضَحِّ فَلاَ يَقْرَبَنَّ مُصَلاَّنَا)).
(سنن ابن ماجه.ص: ٢٢٦باب الاضاحى هي واجبة ام لا)
အဓိပ္ပါယ်။
ဟဇရသ် အဗူဟုရိုင်ရာဟ်(ရသွေ)ဆင့်ပြန်ခဲ့သည်။
တမန်တော်မြတ်(ﷺ)အမိန့်ရှိတော်မူသည်မှာ
"အကြွင်သူဟာ ကုရ်ဘာနီပြုလုပ်ရန် ချောင်လည်မှုရှိပြီး ကုရ်ဘာနီမပြုလုပ်ပါက ၎င်းသူသည် ငါ
ကိုယ်တော်၏ အီးဒ်ဂါဟ် အနီးသို့မလာလေနှင့်။"

အထပ်ပါ ဟဒီးဆ်တော်မှ သိရသည်မှာ ကုရ်ဘာနီ
အတွက် တာဝန်ထိုက်သူဖြစ်ရန်လိုအပ်သည်။
တာဝန်ထိုက်သူ မည်သူဖြစ်သနည်း?နှင့် ပတ်သတ်၍ အရှေ့တွင် တင်ပါပြမည်။

(၄)မိမိရပ်ရွာတွင်နေထိုင်သူဖြစ်ခြင်း။
(ခရီးသည်အပေါ်၌ ကုရ်ဘာနီတာဝန်မရှိပေ)
အထောက်အထား
عن علي رضي الله عنه قال ليس على المسافراضحية
(المحلى بالآثارلابن حزم ج:٦. ص٣٧ مسئله ٩٧٩ )
အဓိပ္ပါယ်။
ကုရ်ဘာနီသည် ခရီးသည်အပေါ်၌ ဝါဂိုဗ်မဟုတ်ပေ။

## ကုရ်ဘာနီ တာဝန်ထိုက်သူ (နိဆားဗ်)

~~~~~~~~~~~~~~~~~~~~~~~~~~~~

ကုရ်ဘာနီ တာဝန်ထိုက်သူ၏ ပိုင်ဆိုင်မှုပမာဏသည် ဆွဒကွသွလ်ဖိသ်ရ်(ဖိသ်ရာဟ်) ဝါဂျိဗ် ထိုက်သူကဲ့သို့ဖြစ်သည်။

{ အကြင် အမျိုးသား/သမီး၏ ပိုင်ဆိုင်မှုသည်
ရွှေ(၇)သိုလာခွဲ (၅ကျပ် ၄ပဲ ၁.၅ရွေး) (သို့)ငွေ(၅၂)သိုလာခွဲ (၃၆ကျပ် ၁၃ပဲ ၃.၅ရွေး)
(သို့)ငွေသား(သို့)အရောင်းအဝယ်ပစ္စည်း(သို့)
လိုအပ်ချက်ထက်ပိုသော ပစ္စည်းအနက်မှ တခု(သို့)ၐင်း(၅)ခုစလုံး (သို့) တချို့ကိုစုပေါင်းလိုက်ပါက ငွေ(၅၂)သိုလာခွဲ၏ တန်ဖိုးနှင့် ညီမျှသည် ဆိုပါက ထိုအမျိုးသားနှင့်အမျိုးသမီးအပေါ် ကုရ်ဘာနီသည် ဝါဂျိဗ်တာဝန်ဖြစ်သည်။ }

(الجوهرة النيرة ج: ١. ص:١٦٠ )

မှတ်သားသင့်သည့်အချက်မှာ လိုအပ်၍မဟုတ်ပဲ အလှအပ(သို့)အိမ်တွင်းထားရှိပြီး
တစ်နှစ်ပတ်လုံး အသုံးမပြုသော ပစ္စည်းများသည်လည်း နိဆားဗ်တွင် ပါဝင်တွက်ချက်ရမည်။

(بدائع الصنائع ج: ٢ ص: ١٥٨، ١٥٩ )

(رد المحتار ج:٣. ص: ٣٤٦)
~~~~~~~~~~~~~~~~~~~~~~~~~~~~

ကုရ်ဘာနီ၏ ပညတ်ချက်များ

~ · ~ · ~ · ~ · ~ · ~ · ~ ·

[1]ကုရ်ဘာနီသည် ဝါဂျိဗ်အဆင့်ရှိသော တာဝန် တစ်ရပ်ဖြစ်သည်။

ကုရ်ဘာနီတာဝန်ထိုက်သူတိုင်းအပေါ်၌ ကုရ်ဘာနီပြုခြင်း ဝါဂျိဗ်ဖြစ်သည်။ ဤအရာနဲ့စပ်လျဉ်း၍ကျမ်းတော်မြတ်ကုရ်အာန်နှင့်ဟဒီးဆ်ဩဝါဒတော်များ၌ မြောက်များစွာသော အထောက်အထားများ လာရှိသည်။ အချို့မှာ

(1)فَصَلِّ لِرَبِّكَ وَانْحَرْ

အဓိပ္ပါယ်။

သို့ဖြစ်ပေရာ အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအသျှင်အား ရည်သန်၍ ဆွလားသ် ဝတ်ပြုပါလေ ။ ထို့မှ တပါး အသင်သည် (ထိုအသျှင်မြတ်အား ရည်သန်၍ သားကောင်အား) ကုရ်ဘာနီပြုပါလေ။

ကျော်ကြားလှသော သဖ်စိရ်ပညာရှင်ကြီး တစ်ပါးဖြစ်သော ကာဇ္ဇီ စနာအွလ္လာဟ် ပါနီးပဒ္ဒီး(ရဟ်)သည်ဤအာယသ်၏ အောက်ခြေ၌ ရေးသားသည်မှာ

قال عكرمة وعطاءوقتادة فصل لربك صلوةالعيد يوم النحر ونحرنسكك فعلى هذايثبت به وجوب صلوة العيد والاضحية (التفسير المظهرى: ج ١٠. ص: ٣٥٣)

ဟာဇရသ် အိက္ကရမာဟ်၊ ဟာဇရသ် အသွာအ်၊ ဟာဇရသ် ကသာဒါဟ် (ရဟိမဟုမွလ္လာဟ်)သခင်ကြီးတို့ အမိန့်ရှိသည်မှာ (فَصَلِّ)၏ အလိုသဘောမှာ အီးဒ်နမာဇ်ကို ဆိုလိုခြင်းဖြစ်ပြီး (وَانْحَرْ)၏အလိုသဘောမှာကုရ်ဘာနီအား ဆိုလိုခြင်းဖြစ်သည်။ ဤအချက်မှ သိရှိရသည်မှာ ကုရ်ဘာနီသည် ဝါဂျိဗ်တာဝန်ဖြစ်ချေသည်။

အလ္လာမာဟ် အဗူဗကရ် ဂျဆ္ဆာဆ်(ရဟ်)သခင်သည် မိမိ၏ သိဖ်စီရ်ကျမ်းကြီးဖြစ်သော ' အဟ်ကာမွလ် ကုရ်အာန် 'တွင် အမိန့်ရှိသည်မှာ

قال الحسن صلوةيوم النحروالبدن...قال ابوبكرهذالتاويل يتضمن معنين؛ احدهما ايجاب صلوة الاضحى والثاني وجوب الاضحية(احكام القرآن للجصاص: ج٣. ص: ٤١٩ تحت سورة الكوثر)

အဓိပ္ပါယ်။
ဟာဇရသ် ဟစန် ဗဆွရီ(ရဟ်)သခင် အမိန့်ရှိသည်မှာ ဤအာယသ်တော်(فَصَلِّ لِرَبِّكَ وَانْحَرْ)တွင်နမားဇ်နှင့် ပတ်သတ်၍ တင်ပြထားခြင်းသည် အီးဒ်နမားဇ် ကို ဆိုလိုခြင်းဖြစ်ကြောင်းနှင့် وَانْحَرْ၏အလိုသဘောမှာ ကုရ်ဘာနီအား ဆိုလိုခြင်း ဖြစ်ကြောင်း။

ဟာဇရသ် အဘူဗကရ် ဂျဆ္ဆာဆ်(ရဟ်)သခင်အမိန့်ရှိသည်မှာ ထိုအာယသ်တွင် အချက် (၂)ချက်အား တင်ပြထားသည်။
၁။ အီးဒ်နမားဇ်သည် ဝါဂျိဗ်တာဝန်ဖြစ်သည်။
၂။ ကုရ်ဗာနီသည် ဝါဂျိဗ်တာဝန်ဖြစ်သည်။

(3)عَنْ أَبِي هُرَيْرَةَ أَنَّ رَسُولَ اللَّهِ صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ قَالَ: ((مَنْ كَانَ لَهُ سَعَةٌ وَلَمْ يُضَحِّ فَلاَ يَقْرَبَنَّ مُصَلاَّنَا)).
(سنن ابن ماجه ص: ٢٢٦ باب الاضاحى هي واجبة ام لا، مسنداحمد ج: ٢ص ٣٢١ رقم: ٨٢٥٤، السنن الكبرى ج: ٩. ص: ٢٦٠ تاب الضحايا، كنزالاعمال رقم: ١٢٢٦١ )

အဓိပ္ပါယ်။
ဟဇရသ် အဗူဟိုရိုင်ရာဟ်(ရသွေ)ဆင့်ပြန်ခဲ့သည်။
တမန်တော်မြတ်(ﷺ)အမိန့်ရှိတော်မူသည်မှာ
"အကြင်သူဟာ ကုရ်ဘာနီပြုလုပ်ရန် ချောင်လည်မှုရှိပြီး
ကုရ်ဘာနီမပြုလုပ်ပါက ၎င်းသူသည် ငါ
ကိုယ်တော်၏ အီးဒ်ဂါဟ် အနီးသို့မလာလေနှင့်။"

ချောင်လည်မှုရှိပြီး ကုရ်ဘာနီမပြုလုပ်သူအားတမန်တော်မြတ်(ﷺ)သည် ပြင်းထန်သောသတိပေးမှုပြု ထားပေသည်။ သတိပေးမှုသည်ဝါဂိုဗ်တာဝန်အား စွန့်လွှတ်ခြင်းကြောင့်ဖြစ်သည်။ သို့ရှိရာ ကုရ်ဘာနီ ပြုခြင်းသည် ဝါဂိုဗ်တာဝန်ဖြစ်ကြောင်း ပေါ်လွင်ထင်ရှားပေသည်။

(4)عَنْ مِخْنَفِ بْنِ سُلَيْمٍ قَالَ:كُنَّا وُقُوفًا عِنْدَ النَّبِيِّ صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ بِعَرَفَةَ فَقَالَ: ((يَا أَيُّهَا النَّاسُ إِنَّ عَلَى كُلِّ أَهْلِ بَيْتٍ فِي كُلِّ عَامٍ أُضْحِيَّةً وَعَتِيرَةً)).(سنن ابن ماجه ص: ٢٢٦ باب الاضاحى هي واجبة ام لا، سنن نسائى ج: ٢. ص: ١٨٨ كتاب الفرع والعتيرة)

အဓိပ္ပါယ်။
ဟဇရသ် မိခ်နိဖ်ဘင်န် စိုလိုင်းမ်(ရသေ့)သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်ုပ်သည် တမန်တော်မြတ်(ﷺ)နှင့်အတူ အရဖာသ်ဆိုင်းငံ့နေလေသည်။ သို့ရှိရာတမန်တော်မြတ်(ﷺ)သည် အမိန့်ရှိသည်မှာ "အိုလူသားအပေါင်းတို့! အိုးအိမ်ပိုင်ဆိုင်သူများအဖို့ နှစ်စဉ် ကုရ်ဘာနီနှင့် အသီရာဟ်သည် ဝါဂိုဗ်ဖြစ်သည်။"

အထပ်ပါဟာဒီးဆ်တော်မှ ကုရ်ဘာနီ၏ပုံစံ နှစ်မျိုး နှစ်စားအတွက် အမိန့်အား သိရှိရလေသည်။
၁။ အီဒွလ်အသွှာဟာ၏ ကုရ်ဘာနီ
၂။ အသီရာဟ်

' အသီရာဟ် 'ဆိုသည်မှာ အမိုက်ခေတ်၏ ရဂျဗ်လတွင် ရုပ်တုများ၏ အမည်များဖြင့်ပြုသောကုရ်ဘာနီဖြစ်သည်။ အစ္စလာမ်သာသနာ ရောက်ရှိလာပြီးနောက်ပိုင်တွင်လည်း အလ္လာဟ်အသျှင်မြတ်၏ နာမတော်ဖြင့် ကုရ်ဘာနီပြုကြလေသည်။သို့သော် နောက်ပိုင်းတွင် ၎င်းအမိန့်အား ဖျက်သိမ်းလိုက်သည်။ ဤအတွက် ဟဇရသ်အဘူဟိုရိုရာဟ်(ရသေ့) သခင်ထံမှဆင့်ပြန်ချက်လာရှိသည်။

نهى رسول الله صلى الله عليه وسلم عن الفرع والعتيرة

(سنن النسائى ج: ۲. ص: ۱۸۸كتاب الفرع والعتيرة)

အဓိပ္ပါယ်။
' တမန်တော်မြတ်(ﷺ)သည် ဖရအ်နှင့် အသီရာဟ်တို့အား တားမြစ်လိုက်သည်။ '

ဖရအ် ဆိုသည်မှာကုလားအုတ်မ၏ပထမဆုံးမွေးဖွားသော ကလေးအား ရုပ်တုများ၏အမည်ဖြင့်စွန့်လွှတ်စတေးကြခြင်းကိုခေါ် ဆိုသည်။အစ္စလာမ်သာသနာ၏ အစပိုင်းကာလများတွင်လည်း အလ္လာဟ်အသျှင်မြတ်၏ နာမတော်ဖြင့် ဇဗဟ်လုပ်လျက်ရှိခဲ့သည် သို့သော် နောက်ပိုင်းတွင်ရင်းအမိန့်အား ဖျက်သိမ်းလိုက်သည်။

(زهرالربى على النسائى للسيوطي ج: ٢ ص: ١٨٨)

(4)عن جُنْدَبَ بْنَ سُفْيَانَ الْبَجَلِيِّ قَالَ شَهِدْتُ النَّبِيَّ صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ يَوْمَ النَّحْرِ فَقَالَ: ((مَنْ ذَبَحَ قَبْلَ أَنْ يُصَلِّيَ فَلْيُعِدْ مَكَانَهَا أُخْرَى، وَمَنْ لَمْ يَذْبَحْ فَلْيَذْبَحْ)).
صحيح البخارى ج:٢.ص: ٨٤٣)

အဓိပ္ပါယ်။

ဟဇရသ် ဂျုန်ဒပ် ဘင်န် စွဖ်ယာန် အလ်ဘဂျလီး(ရသေ့)ထံမှ ဆင့်ပြန်ချက်လာရှိသည်။သခင်ကြီးပြောပြသည်မှာကျွန်ုပ်သည် အီးဒွလ်အသွှာဟာနေ့တွင် တမန်တော်မြတ်(ﷺ)ထံ အခါစာ းရောက်ရှိခဲ့သည်။ တမန်တော်မြတ်(ﷺ) အမိန့်ရှိတော်မူသည်မှာ' အကြင်သူဟာ အီးဒ်နမားဇ်ထက်အလျင် ကုရ်ဘာနီသားကောင်အား ဇဗဟ်(လှည်လှီးခြင်း)ပြုလိုက်သည်ဆိုပါက ၎င်းသားကောင်၏နေရာတွင် ဒုတိယအကြိမ် ကုရ်ဘာနီပြန်လုပ်လိုက်ပါ။ အကြင်သူဟာ (အီးဒ်နမားဇ်အလျင်) ကုရ်ဘာနီ မပြုထားပါက အီးဒ်နမားဇ်အပြီးတွင်ပြုလုပ်ပါ။

အထက်ပါဟဒီးဆ်တော်တွင်တမန်တော်မြတ်ကြီး(ﷺ)သည် အီးဒ်နမားဇ်အလျင်ကုရ်ဘာနီပြုလုပ်ခဲ့ခြင်းအတွက် တဖန်ပြန်လည်ပြုလုပ်ရန် အမိန့်ပေးခဲ့ခြင်းသည် ကုရ်ဘာနီဟာဝါဂျိဗ်ဖြစ်ကြောင်း အထောက်အထားဖြစ်သည်။

အချို့ပုဂ္ဂိုလ်များသည်ကုရ်ဘာနီအားစွန္နသ်ဟူ၍သာထင်မှတ်ထားကြသည်။ဝါဂျိဗ်ဖြစ်ကြောင်းလက်မခံကြပေ။ ၎င်းတို့က အထောက်အထားအဖြစ် အောက်ပါ ဟဒီးစ်များကိုတင်ပြကြသည်

1:တမန်တော်မြတ်(ﷺ)သည် ကုရ်ဘာနီနေ့တွင် ပြုလုပ်ရမည့် အလုပ်များအား ဖော်ပြ၍ အမိန့်ရှိသည်မှာ

عَنِ الْبَرَاءِ رَضِيَ اللَّهُ عَنْهُ قَالَ: قَالَ النَّبِيُّ صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ: ((إِنَّ أَوَّلَ مَا نَبدَأُ بِهِ فِي يَوْمِنَا هَذَا أَنْ نُصَلِّيَ ثُمَّ نَرْجِعَ فَنَنْحَرَ، مَنْ فَعَلَهُ فَقَدْ أَصَابَ سُنَّتَنَا، وَمَنْ ذَبَحَ قَبْلُ فَإِنَّمَا هُوَ لَحْمٌ قَدَّمَهُ لأَهْلِهِ، لَيْسَ مِنَ النُّسُكِ فِي شَيْءٍمَنْ ذَبَحَ بَعْدَ الصَّلاَةِ تَمَّ نُسُكُهُ، وَأَصَابَ سُنَّةَ الْمُسْلِمِينَ)).

(صحيح البخارى ج:٢. ص: ٨٣٢)

အဓိပ္ပါယ်။

ဟဇရသ် ဗရာအ် (ရသွေ)ထံမှဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ်(ﷺ) အမိန့်ရှိတော်မူသည် ထိုနေ့တွင် ငါကိုယ်တော်ပထမဆုံးဆောင်ရွက်သောအလုပ်မှာ(အီးဒ်)နမားဇ်ဖြစ်သည်။ ထို့နောက်နမားဇ်မှအပြန်တွင် ကုရ်ဘာနီပြုသည်။အကြင်သူဟာဤကဲ့သို့ပြုလုပ်မည်(နမားဇ်ဖတ်ပြီးမှသာ ကုရ်ဘာနီပြုမည်)ဆိုလျှင်ငါကိုယ်တော်၏နည်းလမ်းအပေါ်မှာ အမလ်လုပ်သူ ဖြစ်သည်။

အကြွင်သူဟာ နမားဇ်ထက်အလျင် ကုရ်ဘာနီပြုလုပ်သည် ဆိုပါကရင်းကုရ်ဘာနီသည် အိမ်သူအိမ်သားများအဖို့သာမန် အသားသာဖြစ်သည်။အကြွင်သူဟာ နမားဇ်(အီးဒ်)ပြီးမှဇဗာ ဟ် ပြုလုပ်မည်ဆိုပါက ၎င်းသူ၏ ကုရ်ဘာနီသည် ပြည့်ဝမည် ဖြစ်ပြီး ယင်းကဲ့သို့ပြုလုပ်ခြင်းကသာ မွစ်လင်မ်တို့၏ လမ်းစဉ် အပေါ် လျှောက်လှမ်းခြင်းဖြစ်သည်။"

2:وقال ابن عمر هي سنة ومعروف

(صحيح البخارى ج:٢. ص: ٨٣٢)

ဤဆင့်ပြန်ချက်တွင် တမန်တော်မြတ်(ﷺ)သည်

" أَصَابَ سُنَّتَنَا"

ဟူ၍မိန့်ကြားတော်မူထားသည်။ ထိုအပြင်နောက်တစ်နေရာ တွင်ဟာဇရသ် အဗ်ဒွလ္လာဟ် ဘင်န် အုမရ်(ရသွေ)သည် "هي سنة ومعروف" ဟူ၍မိန့်ကြားထားပြန်သည်။ဤအချက်မှ ကုရ်ဘာနီပြုခြင်းသည် စွန္နသ် ဖြစ်ကြောင်းသိရပေသည်။

တင်ပြလိုသောအရာမှာ ဤအချက်တွင် စွန္နသ်၏ အလို သဘောသည် ဝေါဟာရအရ စွန္နသ်မဟုတ်ပေ။ဤနေရာ တွင် စွန္နသ်၏ အလိုသဘောမှာ' နည်းလမ်း 'ကိုသာပြော ဆိုခြင်းဖြစ်သည်။ အကြွင်သူဟာ အီးဒ် နမားဇ်ပြီးသည့် နောက်တွင်ကုရ်ဘာနီပြုလုပ်မည် ဆိုပါက ၎င်းသည် မွစ်လ င်မ်တို့၏ နည်းလမ်းနှင့်အညီ အမလ်ပြုလုပ်ခြင်းဖြစ်သည်။

ဟာဖိဇ် အိဗ်နေ ဟဂ်ျ အက်စ်ကလာနီး(ရဟ်)အမိန့်ရှိသည်

" والمرادبالسنةهنافى الحديثين معاالطريقةلاالسنة بالإصطلاح التى تقابل الوجوب"(فتح البارى ج:١٠.ص: ٣)

အဝိပ္ပါယ်။
ဤနေရာတွင် ဟဒီးဆ်တော်နှစ်ခုစလုံး၌ " စွန္နသ်"
၏အလိုသဘောမှာ ' နည်းလမ်း 'ကိုသာ ဆိုလိုခြင်း
ဖြစ်ပြီး ဝေါဟာရအရ စွန္နသ်မဟုတ် ။

ကုရ်ဘာနီ သားကောင်
~-~-~-~-~-~-~-~-~

ကုရ်ဘာနီအတွက် ဇဗာဟ်ပြုပိုင်သော သားကောင်များ

သိုး၊ ဆိတ်၊ နွား၊ ကျွဲ၊ ကုလားအုတ်(အဖို၊ အမ)တို့ဖြစ်သည်။

အထောက်အထား။(ကျမ်းတော်မြတ်ကုရ်အာန်)

ثَمَانِيَةَ أَزْوَاجٍ مِنَ الضَّأْنِ اثْنَيْنِ وَمِنَ الْمَعْزِ اثْنَيْنِ قُلْ آلذَّكَرَيْنِ حَرَّمَ أَمِ الْأُنْثَيَيْنِ أَمَّا اشْتَمَلَتْ عَلَيْهِ أَرْحَامُ الْأُنْثَيَيْنِ نَبِّئُونِي بِعِلْمٍ إِنْ كُنْتُمْ صَادِقِينَ

وَمِنَ ٱلْإِبِلِ ٱثْنَيْنِ وَمِنَ ٱلْبَقَرِ ٱثْنَيْنِ ۗ قُلْ ءَآلذَّكَرَيْنِ حَرَّمَ أَمِ ٱلْأُنثَيَيْنِ أَمَّا ٱشْتَمَلَتْ عَلَيْهِ أَرْحَامُ ٱلْأُنثَيَيْنِ ۖ

(စူရာဟ် ၆ အာယသ် ၁၄၃ . ၁၄၄ )

အဓိပ္ပါယ်။
6|143|(အသင်တို့သည်မိမိတို့၏စိတ်ထင်ရာအတိုင်းစားသုံးပိုင်ခွင့်ရှိသည်ဟူ၍လည်းကောင်း၊စားသုံးပိုင်ခွင့်မရှိဟူ၍လည်းကောင်း၊ထင်မြင်ယူဆပြောဆိုလျက်ရှိကြသောအခြေလေးချောင်းတရိစ္ဆာန်တို့အနက်ထိုအရှင်မြတ်သည်အထီးအမ)ရှစ်ကောင်ကို(ဖန်ဆင်းတော်မူခဲ့လေသည်။)သိုးများအနက်အထီးအမနှစ်ကောင်၊ထိုနည်းတူဆိတ်များအနက်အထီးအမနှစ်ကောင်၊(ဖန်ဆင်းတော်မူလေ၏။အို-နဗီတမန်တော်)အသင်သည်(၎င်းတို့အား၍သို့)ပြောဆိုမေးမြန်းပါလေ။(အချင်းတို့)ထိုအရှင်မြတ်သည်အထီးနှစ်ကောင်ကိုဟာရာမ်ဟူ၍တားမြစ်တော်မူပါသလော။သို့တည်းမဟုတ်အမနှစ်ကောင်ကိုတားမြစ်တော်မူပါသလော။သို့တည်းမဟုတ်အမနှစ်ကောင်သားအိမ်များတွင်လွယ်ထားသောကလေးများကိုတားမြစ်တော်မူပါသလော။အကယ်၍အသင်တို့သည်မှန်ကန်စွာပြောဆိုသူများဖြစ်ကြပါလျှင်၊ငါ့အားသက်သေသာဓက၊အထောက်အထားနှင့်တကွတင်ပြကြလေကုန်။

6|144|ထိုနည်းတူစွာ(ထိုအရှင်မြတ်သည်)ကုလားအုတ်များအနက်အထီးနှင့်အမနှစ်ကောင်၊ထို့အတူနွားများအနက်အထီးနှင့်အမနှစ်ကောင်ကို(ဖန်ဆင်းတော်မူလေသည်။အို-နဗီတမန်တော်)အသင်သည်(၎င်းတို့အား၍သို့)ပြောဆိုမေးမြန်းပါလေ။(အချင်းတို့)ထိုအရှင်မြတ်သည်အထီးနှစ်ကောင်ကိုဟာရာမ်ဟူ၍တားမြစ်တော်မူပါသလော။သို့တည်းမဟုတ်အမနှစ်ကောင်ကိုတားမြစ်တော်မူပါသလော။သို့တည်းမဟုတ်အမနှစ်ကောင်သားအိမ်များတွင်လွယ်ထားသောကလေးများကိုတားမြစ်တော်မူပါသလော။

တိရိစ္ဆာန် (၈)မျိုးဖြစ်သည်။
သိုး ဆိတ် ကုလားအုတ် နှင့်နွား အမျိုးအစားတို့မှ
(၂)ကောင်စီဖြစ်သည်။

ကုရ်ဘာနီပြုပိုင်သည့် သားကောင်များတွင်
ကျွဲသည်လည်း အပါအဝင်ဖြစ်သည်။
အဘယ်ကြောင့်ဆိုသော် ကျွဲသည်လည်း
နွားအမျိုးအစားများအနက် တမျိုးဖြစ်လေသည်။
ဤအတွက် ကျွဲအား ကုရ်ဘာနီ ပြုပိုင်ပေသည်။

အထောက်အထားအချို့မှာ

(၁)အိဂ်ျမာအ်အွှမ့်သ်

وَاَجْمَعُوْاعَلٰي اَنَّ حُكْمَ الْجَوَامِيْسِ حُكْمُ الْبَقَرِ.

(كتاب الاجماع لابن المنذر:ص37)

အဓိပ္ပါယ်: အေမာမ်များအားလုံး ကျွဲရဲ့အမိန့်သည်နွားလိုပဲ ဖြစ်ကြောင်းအပေါ်မှာ တစ်ညီတစ်ညွတ်တည်းဖြစ်၏။

(၂) အဘိဓာန်

اَلْجَامُوْسُ ضَرْبٌ مِنْ كِبَارِالْبَقَرِ (المنجد:ص101)

အဓိပ္ပါယ်:ကျွဲသည်နွားရဲ့အမျိုးအစားတစ်မျိုးဖြစ်သည်။

(၃) ဟဇရသ် ဟစန်ဗစ်ရီ (ရဟ့်) သခင် အမိန့်ရှိသည်မှာ...

اَلْجَامُوْسُ بِمَنْزِلَةِ الْقَرِ

(مصنف ابن ابی شیبہ:ج7 ،ص65رقم:10848)

အဓိပ္ပါယ်:ကျွဲသည်နွားရဲ့အတန်းစားထဲမှဖြစ်သည်။

(၄) အိမာမ်မာလိက်ဗင်န်အနက်စ် မဒနီ  အမိန့်ရှိသည်မှာ...

اِنَّمَا هِيَ بَقَرٌكُلُّهَا

(مؤطاامامالک:ص294 ،باب ماجا ءفي صدقةالبقر)

အဓိပ္ပါယ်:ဒီကျွဲဆိုတာသည်နွားသာလျှင်ဖြစ်သည်
(ဆိုလိုသည်မှာ နွားရဲ့အမိန့်ထဲကပင် ဖြစ်သည်။)
တစ်နေရာ၌အမိန့်ရှိထားသည်မှာ...

اَلْجَوَامِيْسُ وَالْبَقَرُ سَوَا ٌء

(كتاب الاموال لابنعبيد:ج2 ،ص385رقم:812)

အဓိပ္ပါယ်:နွားနှင့်ကျွဲသည် အတူတူပင်ဖြစ်သည်။
(ဆိုလိုချက်မှာ အမျိုးအစားတစ်ခုတည်းကဖြစ်သည်။)

(၅) အိမာမ်စွဖ်ယာန်စောင်ရီ (ရဟ့်) သခင်အမိန့်ရှိသည်မှာ

تُحْسَبُ الْجَوَامِيْسُ مَعَ الْبَقَرِ

(مصنف عبدالرزاق:ج4ص23 ،رقم الحديث:6881)

အဓိပ္ပါယ်:ကျွဲများကိုနွားတွေနှင့်အတူရေတွက်ရပေလိမ့် မည်

အကျိုးထူး:

စားပိုင်သောတရိစ္ဆာန်များရဲ့အစိတ်အပိုင်း ခုနစ်ခုကို စားခြင်း မကျေးဇူးဖြစ်သည်။

အထောက်အထား:

عَنْ مُجَاهِدٍ قَالَ كَانَ رَسُوْلُ اللّٰهِ ﷺ يَكْرَهُ مِنَ الشَّاةِ سَبْعًا ،اَلدَّمَ وَالْحَيَا ءَ وَالْأُنْثَيَيْنِ وَالْغُدَّ وَالذَّكَرَ وَالْمَثَانَةَ وَالْمَرَارَةَ.

(مصنف عبدالرزاق:ج4ص409 ،السنن الكبري للبيهقي:ج10 ،ص7 ، باب مايكره من الشاة)

အဓိပ္ပါယ်:မုဂျာဟိဒ်သခင်အမိန့်ရှိသည်မှာ ကိုယ်တော်မြတ်သခင် ﷺ သည် ဆိတ်ရဲ့အစိတ်အပိုင်းခုနစ်ခုကိုစားသုံးခြင်းမှ နှစ်မြို့တော်မူခဲ့ခြင်းမရှိပေ၊(၁)သွေး (၂)မတရိစ္ဆာန်ရဲ့အရှက်အင်္ဂါ (၃)ဝှေးစေ့နှစ်လုံး (၄)သွေးမှဖြစ်လာသောအသားပို (၅)ဖိုတရိစ္ဆာန်ရဲ့ပွန်တံ (၆)ဆီးအိမ် (၇)သည်းခြေ။

(၅)တရိစ္ဆာန်ရဲ့အသက်:

ကုရ်ဘာနီသားကောင်များမှာ သိုး၊ဆိတ် တစ်နှစ်သား ကျွဲ၊နွား နှစ်နှစ် သားဖြစ်ရန်နှင့် ကုလားအုပ်သည်ငါးနှစ်သားဖြစ်ရန်အရေးကြီးလိုအပ်ပေသည်။သို့ရှိရာ ကြည့်ရာမြင်ရာတွင် တစ်နှစ်သားဟု ထင်ရသော သိုးနှင့်ဒွန်ဘဟ်သားကောင်ကို ကုရ်ဘာနီလုပ်ခြင်းလည်း ပိုင်ပေသည်။

အထောက်အထား:

عَنْ جَابِرِبْنِعَبْدُاللّٰهِ رضي الله عنه قَالَ قَالَ رَسُوْلُ اللّٰهِ ﷺ
لَاتَذْبَحُوْا اِلَّامُسِنَّةً اِلَّا اَنْ يُّعْسَرَ عَلَيْكُمْ فَتَذْبَحُوْا جِذْعَةً مِّنَالضَّاْنِ. ۔
(صحيح مسلم:ج2، ص155 باب من الاضحية)

အဓိပ္ပါယ်:ဟဇရသ်ဂျာဗိရ်ဗင်န်အဗ်ဒွလ္လာဟ် သခင် ဆင့်ပြန်တော်မူသည် ကိုယ်တော်မြတ်သခင်ﷺ မိန့်တော်မူသည်မှာ ကုရ်ဘာနီတွင် တစ်နှစ်သား သားကောင်ကို ဇဗဟ်လုပ် (လည်လှီး)ပါ။အကယ်၍ ၁နှစ်သား သားကောင်ရဖို့အခက်အခဲရှိသော် တစ်နှစ်ဟုထင်ရသော ခြောက်လသား ဒွန်ဗဟ်သားကောင်ကို ဇဗဟ်လုပ်(လည်လှီး)ပါ။

ဤဟဒီးစ်တော်ထဲတွင် စဉ်းစားတွေးတောသင့်သောအချက်နစ်ချက်ရှိပေသည်။ နံပါတ်(၁)ဟဒီးစ်တော်ထဲတွင် ကုရ်ဘာနီသားကောင်အတွက် ကိုယ်တော်မြတ်သခင် ﷺ သည် مُسِنَّةٌ ဆိုသောစာလုံးကို အသုံးပြုတော်မူခဲ့သည်။အိမာမ်သိရ်မိဇီရဲ့အဆိုအားဖြင့်ဖေကဟ်ပညာရှင်များသည်ဟဒီးစ်တော်များ၏ အဓိပ္ပါယ်နှင့်အလိုသဘောကို သာပိုသိကြပေသည်။
(جامع الترمذي:ج1 ،ص193 باب غسل الميت)

သို့ရှိရာ ဖေကဟ်ပညာရှင်များက مُسِنَّةٌ
ရဲ့အလိုသဘောကို ဤသို့ဖွင့်ဆိုခဲ့ကြသည်။ယင်းဖြင့်ဆိုလိုသည်မှာ "الثني"အသက်အရွယ်ကိုထောက်ရှုခြင်းခံရသောသားကောင်ကို ဆိုလိုခြင်းဖြစ်သည်။သို့ဖြစ်ပေရာ သိုး၊ဆိတ်သည်တစ်နှစ်သားဖြစ်ကာ ကျွဲ၊နွားသည်နှစ်နှစ်သားဖြစ်ပြီး ကုလားအုတ်သည် ငါးနှစ်သားဖြစ်သည်။
တစ်ချို့သောရှင်းလင်းချက်များကိုလေ့လာကြည့်ပါ...

(၁) ဟဒီးစ်နှင့်ဖေကဟ်မှာ ကျော်ကြားသော အလ္လာမဟ် အဗွလ်ဟုစိုင်းန် အလ်ကုဒူရီ (ရဟ်) အမိန့်ရှိသည်မှာ....

اِنَّ الْفُقَهَا ءَ قَالُواْ ... وَالثَّني (مِنَ الْغَنَمِ اِبْنُ سَنَةٍ)
وَالثَّني مِنْهُ (مِنَ الْبَقَرِ اِبْنُ سَنَتَيْنِ) وَالثَّني (مِنَ الْاِبِلِ اِبْنُ خَمْسٍ).
(الفتاوي عالمگيريہ:ج5 ،ص367)

အဓိပ္ပါယ်:ဖေကဟ်ပညာရှင်များ မိန့်ကြသည်မှာ သိုး၊ဆိတ်သည်တစ်နှစ်သားဖြစ်ကာ ကျွဲ၊နွားသည်နှစ်နှစ်သားဖြစ်ပြီး ကုလားအုတ်သည် ငါးနှစ်သားဖြစ်ရမည်။

(၂)ဟဒီးစ်နှင်ဖေကဟ်ပညာရှင် အလ္လာမဟ် ဇိုင်နွဒ္ဒီးန် အိဗ်နနုဂျိုင်းမ် (ရဟ်) အမိန့်ရှိသည်မှာ....

وَالثَّني مِنَ الضَّأنِ وَالْمَعْزِ اِبْنُ سَنَةٍ وَمِنَ الْبَقَرِ
اِبْنُ سَنَتَيْنِ وَمِنَ الْاِبِلِ اِبْنُ خَمْسِ سِنِيْنَ.

အဓိပ္ပါယ်:သိုး၊ဆိတ်သည်တစ်နှစ်သားဖြစ်ကာ ကျွဲ၊နွားသည်နှစ်နှစ်သားဖြစ်ပြီး ကုလားအုတ်သည် ငါးနှစ်သားဖြစ်ရမည်။

ထို့ပြင် ဤသို့ဖွင့်ဆိုချက်သည် အောက်ပါ စာအုပ်များတွင်လည်း ပါရှိပေသည်။

(١) بذل المجهودشرحسنن ابي داؤد:ج4ص71
(٢) تكملہ فتح الملهمشرحصحيح مسلم:ج3ص558

နံပါတ်(၂):ဖော်ပြပါဟဒီးစ်တော်တွင် مُسِنَّةٌ မရသည့်အခါ جَذَعَةٌ مِّنَ الضَّأنِ ၏အမိန့်ပေးခဲ့သည်။ ၎င်း၏အလိုသဘောမှာ ခြောက်လသား သားကောင်ဖြစ်သည်။သို့သော်ကြည့်ရာတွင် တစ်နှစ်သားလို့ထင်ရပေသည်။ သို့ရှိရာ အလ္လာမဟ် ဖိုင်နွဒ္ဒီး န် အိဗ်န နုဂိုင်းမ် ရဟော့မဟွလ္လာဟ်သခင် အမိန့်ရှိသည်မှာ...

وَقَالُوا هٰذَااِذَاكَانَ الْجَذَعُ عَظِيْمًا بِحَيْثُ لَوْخَلَطَ بِالثَّنِيَّاتِ يَشْتَبِهُ عَلَي النَّاظِرِيْنَ وَالْجَذَعُ مِنَ الضَّأنِ مَاتَمَّتْلَهٗ سِتَّةُ اَشْهُرٍ عِنْدَالْفُقَهَا ءِ.
(البحرالرائق:ج8ص202كتاب الاضحية)

အဓိပ္ပါယ်:ဖေကဟ်ပညာရှင်များအမိန့်ရှိကြသည်မှာ ဤသားကောင်သည်ဒီလောက်ကြီးသော သားကောင်ကိုဆိုလိုခြင်းဖြစ်သည်။အကယ်လို့၎င်းကို တစ်နှစ်သား သားကောင်တွေထဲမှာရောထားလိုက်ပြီး ကြည့်ရာတွင် တစ်နှစ်သား သားကောင်တွေနှင့် အတူတူလို့ ထင်ရမည်။ထို့နောက် ဖေကဟ်ပညာရှင်များထံတွင် جذع ဆိုတာ ခြောက်လအတိပြည့်ပြီးသား သားကောင်ကိုခေါ်ပေသည်။

စုပေါင်းလုပ်သူများနှင့်၎င်း၏အရေအတွက်
~-~-~-~-~-~-~-~-~-~-~-~-~-~-~-~-~-~

အကယ်၍ ကုရ်ဘာနီ သားကောင်ဟာ ကုလားအုတ်၊နွား သို့မဟုတ် ကျွဲဖြစ်သော် ထိုသားကောင်၌ လူခုနစ်ဦး စုပေါင်းပြုလုပ်နိုင်ပေသည်။

အထောက်အထား(၁):

عَنْ جَابِرٍ رضي الله عنه قَالَ خَرَجْنَا مَعَ رَسُوْلِ اللّهِ ﷺ مُهِلِّيْنَ بِالْحَجِّ فَاَمَرَنَا رَسُوْلُ اللّهِ ﷺ اَنْ نَّشْتَرِكَ فِي الْاِبِلِ وَالْبَقَرِ كُلُّ سَبْعَةٍ مِّنَّا فِيْ بَدَنَةٍ.

(صحيح مسلم:ج1 ،ص424 باب جواز الاشتراك الخ)

အဓိပ္ပါယ်:ဟဇရသ် ဂျာဗိရ် (ရသွေ) သခင်ဆင့်ပြန် အမိန့်ရှိသည်မှာ ကျွန်တော်တို့ ကိုယ်တော်မြတ်သခင် ﷺ နှင့်အတူ ဟဂ်ျ၏ အဲ့ဟ်ရာမ်ဝတ်ပြီး ထွက်ကြသောအခါ ကိုယ်တော်မြတ်သခင်ﷺ က ကျွန်တော်တို့အား ကုလားအုတ်နှင့်နွားတို့တွင် (ကုရ်ဘာနီပြုရာ၌) ခုနစ်ဦး ခုနစ်ဦးစီ စပ်တူပါဝင်လိုက်ကြရန် အမိန့်ပေးတော်မူခဲ့သည်။

အထောက်အထား(၂):

عَنْ جَابِرٍ رضي الله عنه قَالَ نَحَرْنَا مَعَ رَسُوْلِ اللّهِ ﷺ عَامَ الْحُدَيْبِيَّةِ اَلبَدَنَةَ عَنْ سَبْعَةٍ وَالْبَقَرَ عَنْ سَبْعَةٍ.

(صحيح مسلم:ج1 ،ص424 باب جواز الاشتراك الخ)

အဓိပ္ပါယ်:ဟဇရသ် ဂျာဗိရ် (ရသွေ) သခင်ဆင့်ပြန်အမိန့်ရှိသည်မှာ ကျွန်တော်တို့သည် ကိုယ်တော်မြတ်သခင်ﷺနှင့်အတူ ဟုဒိုင်ဗီယဟ်နှစ်၌ ကုရ်ဘာနီလုပ်ခဲ့ကြသည်။သို့ရှိရာ ကုလားအုတ်ကိုလူခုနစ်ဦးဘက်မှစုပေါင်းပြီး ထို့နောက်နွားကိုလူခုနစ်ဦးဘက်မှစုပေါင်းကာကုရ်ဘာနီလုပ်ခဲ့ကြသည်။

တချို့သူများက ကုလားအုတ်တွင် လူဆယ်ဦး စုပေါင်းလုပ် လို့ရသည်ဟု ပြောကြပေသည်။ ၎င်းတို့ထိုသို့ပြောခြင်းမှာ ဟဇရသ် အိဗ်နေ့အဗ္ဗားစ်( ရသွေ) ရဲ့ဆင့်ပြန်မှုရှိသည့် အတွက်ဖြစ်သည်။၎င်းမှာ ကျွန်တော်တို့ ကိုယ်တော်မြတ် သခင် ﷺ နှင့်အတူခရီးတစ်ခုမှာရှိစဉ် အီဒွလ်အဒ္ဒ်ဟာ ရောက်လာသောအခါ ကျွန်ုပ်တို့သည်နွားတွင် လူခုနစ်ဦး ကုလားအုတ်တွင် လူဆယ်ဦးစပ်တူပါဝင် လိုက်ကြသည်။

(سنن الترمذي:ج1 ،ص276باب ماجا ءان الشاة الواحدة تجزي عن اهل البيت)

## အဖြေအားဖြင့် တင်ပြလိုသည်မှာ

(၁)ဤဆင့်ပြန်ချက်အပေါ် တွင်အမလ်လုပ်ခြင်းမရှိပေ။ သို့သာမက ဟဇရသ် ဂျာဗိရ်၏ ထိုဆင့်ပြန်ချက်အပေါ်၌သာ အမလ်လုပ်ကြပေသည်။ အကြင်ဆင့်ပြန်ချက်ထဲတွင် ကု လားအုတ်တွင် လူခုနစ်ဦးစုပေါင်းလုပ်ခြင်းကို တင်ပြထားပေ သည်။ ထိုအတွက်ကြောင့် ဆွဟာဗဟ် သာဝကကြီးများ၏ အမလ်လုပ်ခြင်းသည် လူခုနစ်ဦးစုပေါင်းလုပ်သော ဟဒီးစ် ပေါ်တွင်ဖြစ်သည်။အိမာမ် သိရ်မိဇီ( ရဟ်) သခင်သည် ဟဇ ရသ်ဂျာဗိရ် (ရသွေ) ရဲ့ဟဒီးစ်(၎င်းဆင့်ပြန်ချက်ထဲတွင် ကု လားအုတ်မှာ လူခုနစ်ဦးစုပေါင်းလုပ်ခြင်းကိုတင်ပြထားပေ သည်)ကို ဆင့်ပြန်ရေးသားပြီးသည့်နောက် အမိန့်ရှိသည်။

والعمل علي هذا عند اهل العلم من اصحاب النبي ﷺ وغيرهم.

(سنن الترمذي:ج1 ،ص276باب ماجا ءان الشاة الواحدة تجزي عن اهل البيت)

အဓိပ္ပါယ်:အိလင်မ်ရှိ ဆွဟာဗဟ် သာဝကြီးများရဲ့အမလ်(လု ပ်ဆောင်မှု)သည် ဤဆင့်ပြန်ချက်အပေါ်၌သာ ရှိသည်။

ထို့နောက်ဤသို့ဥပဒေရှိသည်မှာ...

اِذَاتَنَازَعَ الْخَبَرَانِ عَنْرَّسُوْلِ اللّٰهِ ﷺ -نُظِرَ اِلٰي مَا عَمِلَ بِهٖ اَصْحَابُهٗ مِنْ بَعْدِهٖ. (سنن ابي داؤد:باب لحم الصيد للمحرم ،باب من لايقطع الصلوة شئ)

အဓိပ္ပါယ်:ကိုယ်တော်မြတ်သခင် ﷺ ထံမှဆင့်ပြန်ချက်လာရှိသောဟာဒီးစ်နှစ်ပုဒ်မှာ ကွဲလွဲမှုဖြစ်နေသော် ကြည့်ရမည်မှာ ဆွဟာဗဟ် သာဝကကြီးများ ဘယ်ဟာဒီးစ်အပေါ်မှာ အမလ်လုပ်ဆောင်မှုပြုခဲ့သလဲ?၎င်းဟာဒီးစ်ကို ယူရပေမည်။

(၂)ဟာဒီးစ်ပညာရှင်ကြီးများရဲ့အလေ့အထကိုအခြေခံပြီးသိရှိရသည်မှာ ဟဇရတ်အိဗ်နေ့အဗ္ဗားစ်( ရသွေ) ၏ဟာဒီးစ်ဟာ မန်စူးခ်(ရုပ်သိမ်းခံရသောအရာ) ဖြစ်ပြီး ဟဇရတ်ဂျာဗိရ် ၏ ဟာဒီးစ်ဟာ နာစိခ်(ချေပဖျက်သိမ်းသောအရာ)ဖြစ်သည်။ ဟဇရတ်အိမာမ် နဝဝီ သခင် မုစ်လင်မ်ရှရပ်ဟ် باب الوضوء مما مست النار ရဲ့ကဏ္ဍမှာ အမိန့်ရှိသည်မှာ ..

(وهذه عادة مسلم وغيره من ائمة الحديث يذكرون الاحاديث التي يرونها منسوخة ثم يعقبونها بالناسخ.(شرح النووي علي صحيح مسلم :ج1 ص156 باب الوضوء مما مست النار)

အဓိပ္ပါယ်:ဤအရာသည် အိမာမ်မွစ်လင်မ်နှင့်တစ်ခြားသော ဟာဒီးစ်ပညာရှင်းကြီးများရဲ့ အကျင့်ဖြစ်သည်။ ၎င်းတို့သည် မန်စူးခ်ဟာဒီးစ်ကိုအရင်ယူလာကြပြီး နာစိခ်ဟာဒီးစ်များကို နောက်မှယူလာကြပေသည်။ဤနည်းဥပဒေကိုအခြေခံပြီး အိမာမ်သိရ်မိဇီ သည် အိဗ်နေ့အဗ္ဗားစ်သခင်၏ ဟာဒီးစ်ကို အရင်ယူတင်ဆက်ပြီးမှဟဇရတ် ဂျာဗိရ်၏ ဟာဒီးစ်ကို ယူလာသည်။

၃။ ဟဇရသ်ဂျာဘိရ်(ရသွေ)သခင်၏ ဟဒီးစ်မှာ ဟဒီစေ့ ကောင်လီး (နှုတ်မှ မိန့်ခြွေသောဟဒီးစ်) ဖြစ်၍ အိဘ့်နေ့ အဘ်ဘားစ် (ရသွေ) သခင်၏ ဟဒီးစ်မှာ ဟဒီစေ့ ဖိအ်လီး( လုပ်ရပ်ဖြင့်သိရှိရသော) ဟဒီးစ် ဖြစ်သည်။ ဟဒီစေ့ကောင်လီးကို ဟဒီစေ့ ဖိအ်လီးထက် ဦးစားပေးရသည်။ အထက်ဖော်ပြပါ မတ်စ်အလဟ် ၌ တစ်ဖက်တွင် လုပ်ရပ်ဖြင့်သိရှိရသော(ဟဒီစေ့ဖိအ်လီး) သာ ရှိ၍ ၎င်း၏ ဆန့်ကျင်ဘက်အဆို၌မှာမူ လုပ်ရပ်ဖြင့် သိရှိရသော (ဟဒီစေ့ဖေ့အ်လီး)နှင့် နှုတ်မှမိန့်ခြွေသော ဟဒီးစ် (ဟဒီးစေ့ကောင်လီး)၂မျိုး၂စားလုံးရှိနေပေသည်။

အကယ်၍ ကုရ်ဘာနီသားကောင်သည် ဆိတ်(သို့)သိုး ဖြစ်ပါက လူတစ်ဦးထဲသာပြုလုပ်နိုင်ပါသည် ။ အထောက်ထားများမှာ...

၁။ ဟဇရသ် အိဘ့်နေ့ အဘ်ဘားစ် သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည် ။

ان النبى ﷺ اتاه رجل فقال انّ على بدنة

وانامو سربها ولا اجدها فاشتريها

فامره النبي ﷺ ان يبتاع سبع شياة فيذبحهنّ

(سنن ابن ماجه: ص 226؛ كتاب الاضاحى باب كم يجزى من الغنم عن البدنة)

အဓိပ္ပာယ်: ပုဂ္ဂိုလ်တစ်ဦးသည် တမန်တော်မြတ်(ဆွ)ထံ တော်ပါး၌ အခစားဝင်၍ လျှောက်ထားသည်မှာ ကျွန်ုပ် အပေါ် သားကောင်အကြီး ဆိုလိုသည်မှာ (ကုလားအုတ် သို့မဟုတ် နွားသည်) ဝါဂျိဗ် တာဝန်ဖြစ်သွားလေပြီ။ ၎င်းပြင် ကျွန်ုပ်သည် လူချမ်းသာတစ်ဦးဖြစ်ပါသည်။ သို့ တစေလဲ ကျွန်ုပ်သည် သားကောင်အကြီး ဝယ်မရ ဖြစ်နေပါသည်။ (သို့ဖြင့်ပါ၍ ယခု ကျွန်ုပ်ဘာလုပ်ရမည် နည်း) ထိုအခါ တမန်တော်မြတ်(ဆွ)က မိန့်တော်မူသည် မှာ ဆိတ် (၇)ကောင် ဝယ်ယူ၍ ဇဘဟ် လုပ်လိုက်ပါ။

ဤဖော်ပြပါ ဟဒီးစ်တွင် တမန်တော်မြတ်သည် သားကောင်ကြီး တစ်ကောင်ကို ဆိတ် ၇ ကောင် နှင့် ညီတူညီမျှ ရှိကြောင်း ရေတွက်စေခဲ့သည်။ ၎င်းပြင် သားကောင်ကြီးတွင်လဲ ကုရ်ဘာနီ၏ ဝေစုမှာ ၇ ပုံသာ ဖြစ်နိုင်သည် ။ ထို့ထက်မပိုပေ။ ဤမှ သိရှိရသည်မှာ ဆိတ်(သို့) သိုးတို့၏ ကုရ်ဘာနီမှာ တစ်ဦးထက်ပို၍ ဝေစုပါဝင်ခွင့် မရှိပေ။ တစ်ဦးထဲသာ ပြုလုပ်ပိုင်သည်။

၂။ ဟဇရသ် အဗ်ဒွလ်လာဘင်န်အုမရ် သခင်၏ မိန့်ဆိုချက် လာရှိသည်မှာ.. الشاة عن واحد

( اعلاء السنن: ج 17، ص 210، باب ان البدنة عن سبعة)

အဓိပ္ပာယ်: ဆိတ်သည် လူတစ်ဦးဘက်မှသာ ပြုလုပ်ခွင့်ရှိလေသည်။

တစ်ချို့က ပြောကြသည်မှာ ဆိတ်တွင် အိမ်သူ
အိမ်သား များ အားလုံး စပ်တူပါဝင်ခွင့်ရှိသည်။
၎င်းတို့က အထောက်ထားအဖြင့်တင်ပြကြသည်
မှာ ဟဇရသ် အဘူအိုင်ယူးဘ်အန်စွာရီ သခင်က
မိန့်တော်မူသည်မှာ လူတစ်ဦးသည် မိမိဘက်မှ
၎င်းနောက် မိမိ၏ အိမ်သူအိမ်သားများဘက်မှ
ဆိတ်တစ်ကောင်ကို ဇဘာဟ်ပြုလုပ်လေသည်။
တဖန် အိမ်သူအိမ်သား အားလုံးသည်ထိုဆိတ်
အားစားကြသည်။

(جامع الترمذي ج1 ص272 باب ماجاء أن الشاة الواحدة
تجزي عن أهل البيت )

အဖြေအားဖြင့် တင်ပြလိုသည်မှာ ဟဇရသ်အဘူ
အိုင်ယူးဘ် အန်စွာရီသခင်၏ ဤဆင့်ပြန်ချက်၏
အလိုသဘောမှာ အိမ်သူအိမ်သား အားလုံးသည်
စဝါးဘ် (ကုသိုလ်)၌ စပ်တူ ပါဝင်ကြသည်ဟု
ဖြစ်သည်။ အထက်တွင် အထောက်အထားများဖြင့်
တင်ပြခဲ့သည့်အတိုင်း ဆိတ်တစ်ကောင်မှာ လူ
တစ်ဦးဘက်မှသာ ကုရ်ဘာနီလုပ်ပိုင်ခွင့်ရှိသည်။
စဝါးဘ်(ကုသိုလ်)၌ အားလုံးစပ်တူပါဝင်သည်ဟု
ဆိုသည်မှာ ဤသို့သာဖြစ်သည်။ အဘယ်ကဲ့သို့
ဆိုမူ တမန်တော်မြတ်(ဆွ) သည် ဒွန်ဘဟ်
တစ်ကောင်ကို ဇဘာဟ်ပြု၍ မိန့်တော်မူသည်။

اللّهم انّ هذا عنّي وعمّن لم يضحّ من امّتي

(مسند الامام أحمد بن حنبل رقم الحديث: 14893،
سنن أبي داؤد: باب في الشاة يضحي بها عن جماعة)

အဓိပ္ပာယ်: အိုးအလ္လာဟ် ဤ(ကုရ်ဘာနီ)သည် ကျွန်ုပ်ဘက်မှဖြစ်သည်။ ၎င်းနောက် ကျွန်ုပ်အွမ္မသ် ထဲမှ ကုရ်ဘာနီ မပြုလုပ်ကြသူများဘက်မှ ဖြစ်သည်။

သို့ရှိရာ ဖော်ပြပါ ဆင့်ပြန်ချက်တွင် တမန်တော်မြတ် (ဆွ)သည် မိမိ၏ အွမ္မသ်ကို ကုရ်ဘာနီ၏ စဝါးဘ်တွင် အတူပါဝင်စေခြင်းသာဖြစ်သည်။ (လက်တွေ့၌ စပ်တူ ပါဝင်စေခြင်းမဟုတ်ပေ)

ဤကဲ့သို့ပင် ဖော်ပြပါ အဘူအိုင်ယူးဘ်သခင်၏ ဆင့်ပြန်ချက်တွင်လဲ စဝါးဘ်တွင် အတူပါဝင်စေ ခြင်းကိုသာ ဆိုလိုခြင်းတင်ပြထားခြင်း ဖြစ်သည်။

ကုရ်ဘာနီ ၏ ရက်
~~~~~~~~~~~

ကုရ်ဘာနီပြုလုပ်၍ရသော ရက် ၃ရက် ရှိပါသည်။
၎င်းတို့မှာ ဇုလ်ဟဂ်ျလ ၁၀ ၊ ၁၁ ၊ ၁၂ တို့ဖြစ်ပါသည်။

အထောက်အထား (၁)
အလ္လာဟ်အရှင်မြတ်မိန့်တော်မူထားသည်

لِّيَشْهَدُوا مَنَافِعَ لَهُمْ وَيَذْكُرُوا اسْمَ اللَّهِ فِي أَيَّامٍ مَّعْلُومَاتٍ
(سورة الحج:28)

အဓိပ္ပာယ်: မိမိတို့အဖို့အကျိုးကျေးဇူးရှိရာများသို့ရောက်ရှိကြအံ့သောငှာလည်းကောင်း၊အလ္လာဟ်အရှင်မြတ်၏နာမံတော်ကိုထိုအရှင်မြတ်ကမိမိတို့အားချီးမြှင့်ပေးသနားတော်မူခဲ့သောခြေလေးချောင်းတိရိစ္ဆာန်အပေါ်၌သတ်မှတ်ထားသောနေ့ရက်များတွင်(ရွတ်ဖတ်)တသကြအံ့သောငှာလည်းကောင်း၊ထို့နောက်(တမန်တော်မြတ်၏တပည့်သားတို့)(အသင်)တို့လည်းယင်း တိရိစ္ဆာန်များအနက်မှမိမိတို့ကိုယ်တိုင်လည်းစားသုံးကြလေကုန်။မရှိဆင်းရဲသောဒုက္ခိတများအားလည်းကျွေးမွေးကြလေကုန်
~~~~~~~~~~~

فالمعلومات يوم النحر ويومان بعده

(تفسير ابن ابي حاتم الرازي: ج 6، ص 261)

အဓိပ္ပာယ်: ကျမ်းတော်မြတ် ကုရ်အာန် ၌ ဖော်ပြထားသော ايّام معلومات ဆိုသည်မှာ ယောင်မွန်နဟာရ် (ဇုလ်ဟဂ်ျလ ၁၀ ရက်) နှင့် ၎င်း၏ နောက် (၂)ရက် (ဇုလ်ဟဂ်ျလ ၁၁ ၊ ၁၂) ကို ဆိုလိုခြင်း ဖြစ်သည်။

အထောက်ထား (၂)

عن سلمة بن الاكوع قال قال النبي ﷺ من ضحّي منكم فلا يصبحنّ بعد ثالثة وبقي في بيته منه شئ.

(صحيح البخاري: ج2 ،ص 835، باب مايؤكل من لحوم الضاحي)

အဓိပ္ပာယ်: ဟာဇရသ် စလ်မဟ်ဘင်န် အကွ်ဝအ် သခင်ထံမှ ဆင့်ပြန်ချက် လာရှိသည် ။ တမန်တော်မြတ်(ဆွ) မိန့်တော်မူသည် ။ အသင်တို့ထဲ၌ အကြင်သူသည် ကုရ်ဘာနီ ပြုလုပ်ပါက တတိယမြောက်ရက်နောက်ပိုင်း ထိုသူ၏အိမ်တွင် ကုရ်ဘာနီ အသားများ အနည်းငယ် မျှပင် မရှိသင့်တော့ပေ။

ဤဟာဒီးစ်မှ သိရှိရသည်မှာ ကုရ်ဘာနီပြုလုပ်ခွင့်ရှိသော ရက်မှာ (၃)ရက်သာ ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် စတုတ္ထမြောက်ရက်တွင် ကုရ်ဘာနီအသားများပင် ထားခွင့်မပြုထားလျှင် သားကောင်တစ်ကောင်လုံးအား ဇဘာဟ်ပြုလုပ်ရန်ခွင့်ပြုချက်မှာ အဘယ်မှာရနိုင်မည်န ည်း?

ရှင်းလင်းချက်။ ။ တတိယမြောက်ရက်နောက်ပိုင်း ကုရ်ဘာနီ ၏ အသားထားခွင့်မရှိသည့်တားမြစ်ချက်မှာ အစ္စလာမ်၏ ကနဦးပိုင်းတွင် ဖြစ်သည်။ နောက်ပိုင်းတွင် ၃ ရက်ထက်ပို၍ ထားပိုင်ကြောင်း ခွင့်ပြုပေးခဲ့သည်။

(مستدرك حاكم ج 4 ص 259)

မှတ်ချက်။ ။ ၃ရက်ထက် ပိုပြီး ကုရ်ဘာနီအသား ထားပိုင်ခွင့် ရှိသွားပြီဆိုသည့် အတွက်ကြောင့် ၃ရက် မြောက်နောက်ပိုင်းတွင်လည်း ကုရ်ဘာနီလုပ်ပိုင်ခွင့် ရှိသွားပြီဟု သဘောပေါက်မလွဲပါစေနှင့် ။ အဘယ် ကြောင့်ဆိုသော် အသားမှာမူ တစ်နှစ်လုံးလဲ ထားနိုင် ပါသည်။ သို့သော် ကုရ်ဘာနီမှာမူ ၃ရက်မြောက်နောက် ယခင်ကလဲ လုပ်ပိုင်ခွင့်မရှိသလို ယခုလဲ လုံးဝ လုပ်ပိုင်ခွင့်မရှိပေ။

အထောက်အထား (၃)
ဟာဇရသ်အလီသခင်ထံမှလဲ ဤသို့ပင်ဆင့်ပြန်ချက် လာရှိသည်မှာ ကုရ်ဘာနီ၏ ရက်သည် ၃ရက်သာ ဖြစ်သည် ။ (مؤطا.امام مالك ص 497 كتاب.الضحايا)

အထောက်အထား (၄)

عن عبد الله ابن عبّاس: النّحر يومان بعد يوم النّحر وافضلهما يوم النّحر. (احكام القرآن للطحاوي: ج 2 ص205)

အဓိပ္ပာယ်: အဗ်ဒုလ်လာဘင်န် အဘ်ဘားစ် သခင်က မိန့်တော်မူသည်။ ကုရ်ဘာနီ၏ရက်သည် ဇုလ်ဟဂ်ျလ ၁၀ ရက်နေ့ နှင့် ၎င်း၏နောက် (၂)ရက် (ဇုလ်ဟဂ်ျလ ၁၁ ၊ ၁၂) ရက်များ ဖြစ်သည်။ သို့သော် ဇုလ်ဟဂ်ျလ ၁၀ရက်နေ့တွင် ကုရ်ဘာနီလုပ်ခြင်းမှာ အမြတ်ဆုံး ဖြစ်သည်။

တစ်ချို့ကပြောသည်မှာ ကုရ်ဘာနီသည် စတုတ္ထမြောက် ရက် အထိ ပြုပိုင်ခွင့်ရှိသည်။ ၎င်းတို့၏ အထောက်ထား မှာ ဤသို့ဖြစ်သည်။ ဟာဇရသ် ဂိုဗိုင်းရ်ဘင်န် မွသ်အင်မ်မှ ဆင့်ပြန်ချက် လာရှိသည် ။ တမန်တော်မြတ် (ဆွ) က မိန့်တော်မူသည်မှာ အိုက်ယာမေ့သရ်ရှီးက် (ဇုလ်ဟဂ်ျလ ၁၁ ၊ ၁၂၊ ၁၃) ရက် အားလုံးသည် ဇဘဟ်ပြုလုပ်သည့် ရက်များဖြစ်သည်။

(السنن الكبري ،باب من قال.الأضحي جائز يوم النّحر
(19717

၎င်းတို့ကပြောကြသည်မှာ အိုက်ယာမေ့သရှ်ရီးက် သည် ဇုလ်ဟဂ်ျလ ၁၃ရက် အထိဖြစ်သည်။ ထိုရက်သည် အီးဒ်၏ စတုတ္ထမြောက်ရက်ဖြစ်သည်။ ထို့ကြောင့် စတုတ္ထမြောက်ရက်တွင်လဲ ကုရ်ဘာနီပြုလုပ်နိုင်သည်။

အဖြေအားဖြင့် တင်ပြလိုသည်မှာ

၁။ ဖော်ပြပါရိဝါယသ်၏စနန်ဒ်တွင် معاويہ بن يحيى الصدفى ဆိုသော ရာဝီ (ဆင့်ပြန်သူ)ကို ဟဒီးစ် ပညာရှင်များက ဟဒီးစ်တွင်အားနည်းသူ ضعيف ليس بالقوي ဟူ၍ လည်းကောင်း (لاشئ) အခြေမဲ့သူ တစ်ဦး ဖြစ်ကြောင်း လည်းကောင်း သတ်မှတ်ခဲ့ကြသည်။

(الجرح والتعديل: ج 8 ص 384 ، الكاشف : ج2 ص 277)

၂။ အီမာမ် အိဘ်နေ့အဘီဟာသင်မ် ရာဇီ (ရဟ့်) က ဤ ရေဝါယသ် ဆင့်ပြန်သူအစဉ်ဆက်ကို ဤသို့ဖော်ပြသည်

၂။ အီမာမ် အိဘ်နေ့အဘီဟာသင်မ် ရာဇီ (ရဟ်) က ဤ ရေဝါယသ် ဆင့်ပြန်သူအစဉ်ဆက်ကို ဤသို့ဖော်ပြသည်

معاويه بن يحيي الصدفي عن الزهري عن سعيد بن المسيب عن ابي سعيد الخدري

၎င်းနောက်မိမိဖခင် အဘူဟာသင်မ်ရာဇီ၏ ဆုံးဖြတ်ချက်ကို ဆင့်ပြန်ခဲ့သည်။

هذا الحديث كذب بهذا الاسناد

(العلل لابن ابي حاتم الرازي : ج 3 ص 252)

ဆိုလိုသည်မှာ ဤဟဒီးစ်သည် ဤစနဒ်နှင့်တကွ လိမ်လည်မှုဖြစ်သည်။

အလားတူ တစ်နေရာ၌ ဤသို့ဆင့်ပြန်ထားသည်။

هذا حديث موضوع

(العلل لابن ابي حاتم الرازي : ج 4 ص 493)

ဆိုလိုသည်မှာ ဤဟဒီးစ်သည် လုပ်ကြံထားသော ဟဒီးစ်ဖြစ်သည်။

# 37

၃။ အကယ်၍ ဖော်ပြပါ ဟာဒီးစ်ကို အခြေခံ၍ ဇုလ်ဟာဂျ်လ ၁၃ ရက်နေ့ကို ကုရ်ဘာနီ ၏ ရက်ဟု ပြောမည် ဆိုပါက တစ်ဖန်ဇုလ်ဟာဂျ်လ ၉ ရက်(အရ်ဖဟ်)နေ့ကိုလဲ ကုရ်ဘာနီ၏ ရက်တွင် ထည့်သင့်ပေသည်။ အဘယ့်ကြောင့် ဆိုသော် အိုက်ယာမေ့သရ်ရီးက် ရက်များသည် ဇုလ်ဟာဂျ်လ ၉ ရက်မှ အစပြုလေသည်။ သို့သော် ဇုလ်ဟာဂျ်လ ၉ ရက်ကို ကုရ်ဘာနီ၏ ရက်များတွင် ထည့်၍ မရေတွက်ကြပေ။ ဤသည်မှ သိရှိရသည်မှာ ဖော်ပြပါ ရေဝါယာသ် ဆင့်ပြန်ချက် အပေါ် အမလ်ပြုလုပ်ရန် ဖြစ်ကို မဖြစ်နိုင်ပေ။



နံပါတ် (၈) ကုရ်ဘာနီ၏ အချိန်.။

ကုရ်ဘာနီအချိန်ဟာ...
မြို့မှာ နေသူတွေ အတွက် အီးဒ်နမားဇ် ဖတ်ပြီးချိန်ဖြစ်ပြီး အီးဒ်နမားဇ် ဝါဂျစ်ဗ်မထိုက်သည့် ရွာတွင် နေထိုင်ကြသူများ အတွက် စုဗ်ဟု စွာဒစ်က် (မိုးသောက်ယံ) အချိန်မှ အစပြုသည်။ သို့သော် နေထွက်ပြီးအချိန်မှ သားကောင် လည်လှီးခြင်းဟာ ပိုကောင်းသည်။

(فتاوی قاضیخان،فتاوی شامی)

ဟဇ်ရသ် ဗရားအ် ဗင်န် အာဇစ်ဗ် (رضی اللہ عنہ) ဘက်မှ ဆင့်ပြန်ချက် လာရှိသည်မှာ..

سَمِعْتُ النَّبِيَّ صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ يَخْطُبُ فَقَالَ : " إِنَّ أَوَّلَ مَا نَبْدَأُ مِنْ يَوْمِنَا هَذَا أَنْ نُصَلِّيَ ثُمَّ نَرْجِعَ فَنَنْحَرَ، فَمَنْ فَعَلَ فَقَدْ أَصَابَ سُنَّتَنَا وَمَنْ نَحَرَ قَبْلَ الصَّلَاةِ فَإِنَّمَا هُوَ لَحْمٌ قَدَّمَهُ لِأَهْلِهِ، لَيْسَ مِنَالنُّسُكِ فِي شَيْءٍ ".

(صحیح البخاری :ج ۲/ص ۸۳۴ کباب الایضاحی باب الذبح بعد الصلوة)

အဓိပ္ပါယ်..

တမန်တော်မြတ် (ﷺ) ခွသ်ဗဟ် တရားဟောကြားမှုအား ကျွန်ုပ်ကြားခဲ့သည်။ တမန်တော်မြတ် (ﷺ) အမိန့်ရှိသည်မှာ မုချ ဤအီးဒ်နေ့အတွက် ငါတို့ လုပ်ဆောင်ရမည်မှာ ဦးစွာ ပထမ နမားဇ်ဝတ်ပြုရမည်။ ပြီးနောက် ပြန်လာ၍ ကုရ်ဘာနီ လုပ်ရမည်။ အကြင်သူဟာ ဤပုံစံအတိုင်း (အီးဒ်နမားဇ် ပြီး မှ ကုရ်ဘာနီ) ပြုလုပ်ပါက ငါတို့ရဲ့ စွန္နသ် လမ်းစဉ်အတိုင်း ပြုလုပ်သူဖြစ်သည်။

အကြင်သူဟာ အီးဒ် နမားဇ် မတိုင်ခင် ကုရ်ဘာနီပြုလုပ်ပါက ထိုအရာဟာ မိမိမိသားစုအတွက် စီမံပေးသော အသားတစ်ခုသာ ဖြစ်သည်။ ကုရ်ဘာနီနှင့် သက်ဆိုင်မှု မရှိပေ။

ဖော်ပြပါ ဟဒီးစ်အရ သိရှိရသည်မှာ တမန်တော်မြတ် (ﷺ) သခင်သည် အီးဒ်နမားဇ် ရဲ့ အလျင် ကုရ်ဘာနီလုပ်ခြင်းကို တားမြစ်ထားသည်။

အီးဒ်နမားဇ် တာဝန်မရှိသည့် တောရွာမှာ နေထိုင်သူများအတွက်တော့ သူတို့မှာ အီးဒ်နမားဇ် ဝတ်ပြုရန် မလိုသည့်အတွက် အထက်ပါ အမိန့်ထဲတွင် မပါဝင်ပေ။ ထိုသူများအတွက် ကုရ်ဘာနီ အချိန်အစပြု ရန်သာလိုအပ်သည်။ ဒါ့ကြောင့် ဖဂျ်ရ် အချိန်အစပြုရှိန် မိုးသောက်ယံအချိန်ထဲက ကုရ်ဘာနီ ပြုလုပ်မည်ဆိုပါက ပြုလုပ်ခွင့်ရှိသည်။

အများပိုင်း ပုံမှန် တွေ့ကြုံရမည့် မစ်အလဟ်များ..။

(၁) သင်းကွပ်ထားသည့် သားကောင်အား ကုရ်ဘာနီ ပြုလုပ်ခြင်း ပြုပိုင်ရုံသာမက သာပိုကောင်းသည်။

(سنن ابو داؤد ج 3 ص386 باب مايستحب من الضيحا)

(၂) အကာယ်၍ တစ်ဦးတစ်ယောက်သည် အကီကဟ် ၏ နိယသ်ဖြင့် ကုရ်ဘာနီ သားကောင်၌ မိမိရဲ့ ဝေစု ထည့်လျှင် ထည့်ခြင်းသည် ပိုင်ပေသည်။

(فتاوي عالمگيري ج5 ص375)

(၃) သားကောင်ဟာ မသန်စွမ်းသည့် ဒုက္ခိတ သားကောင် ဖြစ်နေမည် ဆိုလျှင် အကယ်၍ လမ်းလျှောက်သည့်အခါ မြေပေါ်တွင် ခြေထောက် လုံးဝ မထောက် နိုင်လောက် အောင် မသန်စွမ်း ဖြစ်နေပါက ကုရ်ဘာနီ မပိုင်ပေ။ သို့သော် လမ်းလျှောက်သည့်အခါ ခြေတစ်ချောင်း ပေါ်၌ အမှီပြုလျက် လျှောက်နိုင်သေးလျှင် ထို သားကောင်ဖြင့် ကုရ်ဘာနီပြုပိုင်သည်။

(سنن ابوداؤد ج2ص387،ردالمحتار ج 9 ص 536،كتاب الاضحية)

(၄) သားကောင်၏ သွားအများပိုင်းဟာ ကြိုးနေသဖြင့် အစာ ပင် မစားနိုင်လျှင် ထိုသားကောင်ဖြင့် ကုရ်ဘာနီမပိုင်ပေ။ သို့သော် အကယ်၍ သွားအနည်းငယ်သာ ကြိုးနေပြီး အစာ စားနိုင်လျှင် ကုရ်ဘာနီပိုင်သည်။

(ردالمحتار ج9 ص 537 كتاب الاضحية)

(၅) အကြင်သားကောင်ဟာ မွေးရာပါ နားရွက် တစ်ဖက် (သို့) နှစ်ဖက် မရှိခြင်း။ နားရွက်ရဲ့၃ပုံ၁ပုံ (သို့) ထို့ထက်များ ပြီး ပြတ်နေခြင်းတို့ ဖြစ်နေပါက ကုရ်ဘာနီ မပိုင်ပေ။ အကယ်၍ နားရွက်ရဲ့၃ပုံ၁ပုံထက်နည်း၍ ပြတ်နေပါက ပိုင်ပေသည်။

(جامع الترمذي ج1 ص 275 باب الاضاحي،ردالمحتار ج 9 ص 537 كتاب الاضحية)

(၆) အကယ်၍သားကောင်၏ ဦးချို (ဂျို) ဟာ ကျိုး၊ပြတ် နေ ပေ မယ့် (ဦးချိုရဲ့အမြစ်) အရင်းကနေ ပြုတ်ထွက် မနေပါက ကုရ်ဘာနီ ပြုပိုင်သည်။ အကယ်၍ ဦးချိုအရင်းပါမကျန် ပြုတ် ထွက်နေပါက မပိုင်ပေ။

(سنن الطحاوي ج2 ص271 باب العيوب التي لايجوز من الهدايا والضحايا ، ردالمحتار ج 9 ص 535 كتاب الاضحية)

(၇) သားကောင်၏ အမြီးမှ သုံးပုံတစ်ပုံ ထက်နည်းပြီး ပြတ်နေပါက ကုရ်ဘာနီပြုပိုင်သည်။ အကယ်၍ သုံးပုံတစ်ပုံ ထက်များပြီး ပြတ်နေပါက ကုရ်ဘာနီ မပြုပိုင်ပေ။

(اعلاء السنن ج 17 ص 237 ، فتاوي عالمگيرية ج 5 ص 368 )

(၈) ကျွဲ၊နွား စသည်တို့ရဲ့ နို့အုံ တစ်အုံ မကောင်းဖြစ်နေပြီး ကျန် နို့အုံသုံးအုံ ကောင်းနေပါက ကုရ်ဘာနီပြုပိုင်သည်။ အကယ်၍ နို့အုံ နှစ်အုံ မကောင်းပါက မပိုင်ပေ။ ဤအတိုင်း သိုး၊ဆိတ် များရဲ့ နို့အုံ တစ်အုံ မကောင်းဖြစ်ရုံဖြင့် ကုရ်ဘာနီ မပိုင်ပေ။

(المعجم الاوسط:ج2ص374 رقم 3578،فتاوىٰ عالمگیریہ ج5ص683)

(၉) သားကောင်ဟာ မျက်လုံးနှစ်လုံးစလုံး ကန်းနေမယ် (သို့) မျက်လုံးတစ်လုံးကန်းနေမယ် (သို့) မျက်လုံးတစ်လုံး၏ သုံးပုံတစ်ပုံ (သို့) သုံးပုံတစ်ပုံ ထက်ပို၍ ကန်းနေမယ်ဆိုရင် ကုရ်ဘာနီမပိုင်ပေ။ အကယ်၍ မျက်လုံးရဲ့ သုံးပုံတစ်ပုံ ထက်နည်းပြီး ကန်းနေပါက ကုရ်ဘာနီ ပိုင်ပေသည်။

(فتاوىٰ عالمگیریہ ج5ص368)

(၁၀) သားကောင်ကို (စဗဟ်) လည်လှီးမည့် ပုဂ္ဂိုလ်ဟာ မုစ်လင်မ် ဖြစ်ရန် အရေးကြီးပေသည်။ ထို့ကြောင့် ကာဖိရ်၊ မုရ်ရစ်က်၊ မဂျူစီ (မီးကိုးကွယ်သူ)၊ ဗုသ်ပရက်စ် (ရုပ်တုကိုးကွယ်သူ)၊ မုဒ်သက်ဒ် တို့ရဲ့ စဗဟ်လုပ်ခြင်း မပိုင်ပေ။

(بدائع الصنائع ج4ص164)

(၁၁) အသားနှင့်စပ်လျဉ်း၍ အမိန့်ပညက်ချက်..။

အကောင်းမွန်ဆုံးသော ပုံစံမှာ.. ကုရ်ဘာနီ သားကောင်ရဲ့ အသားများကို သုံးပုံ ပုံရမည်။ ပထမတစ်ပုံကို မိမိ၏ အိမ်သူအိမ်သားများ အတွက်၊ ဒုတိယ တစ်ပုံကို မိမိရဲ့ ဆွေမျိုးသားချင်း၊ သူငယ်ချင်း၊ မိတ်ဆွေ များအတွက်၊ တတိယ တစ်ပုံကို မရှိဆင်းရဲသားများ အတွက် ခွဲဝေပေးရမည်။ အကယ်၍ အိမ်သူအိမ်သား လူဦးရေများသဖြင့် အသားအားလုံးကို မိမိအိမ်အတွက်သာ ထားမည်ဆိုလည်း ပိုင်ပါသည်။

(فتاویٰ عالمگیریہ ج5ص370-371)

အကယ်၍ ကုရ်ဘာနီသားကောင်မှာ လူအများ၏ အစုစပ်ဖြင့် ပြုလုပ်ထားပါက ဝေစုခွဲဝေသည့်အခါ အလေးချိန် ချိန်တွယ်၍သာ ခွဲဝေရမည်။ ခန့်မှန်းချေဖြင့် ခွဲဝေခြင်းမပိုင်ပေ။

(البحرالرائق:ج8ص198)

ကုရ်ဘာနီ အသားများကို ရောင်းစားခြင်း၊ လုပ်အားခအဖြစ်ပေးခြင်း မပိုင်ပေ။

(بدائع الصنائع ج4ص225)

(12) ကုရ်ဘာနီ သားကောင် ရဲ့ သားရေကို မိမိကိုယ်တိုင် ပုဂ္ဂလိက အတွက် အသုံးပြုခြင်းပိုင်ပေသည်။ ပမာအားဖြင့်.. မုစ္စလ္လာ (နမားဇ်ဝတ်ပြုရန်အခင်း)၊ ရေအိတ် စသည့်အရာများ ပြုလုပ်ပါက ပြုလုပ်အသုံးပြုခွင့်ရှိသည်။ ထိုအရာကို ရောင်းပြီး အဖိုးအခကို သုံးစွဲခြင်းကတော့မပိုင်ပေ။ ဆင်းရဲသားများကို ပေးရန် ဝါဂျစ်ပ် ဖြစ်သည်။

(عالمگیری ج3 ص 372)

ထိုကဲ့သို့ပင် သားကောင်၏ သားရေရဲ့ အဖိုးအခကို ဗလီ
ဆောက်လုပ်ရေး လုပ်ငန်းတွေမှာ အသုံးမပြုရပေ။ ဤအ
တိုင်းပင် တခြား လူမှုဖူလုံရေး ပရဟိတ အဆောက်အအုံ
တွေမှာလည်း သုံးစွဲလို့မရပေ။ ထိုအဖိုးအခတွေကို မရှိဆင်း
ရဲသားများအား အပိုင်ပေးလိုက်ဖို့ အရေးကြီးပေသည်။ ဒါ့
ကြောင့် အကောင်းဆုံးမှာ သာသနာ့ကျောင်းတွေ၊ သာသနာ့
ကျောင်းသားတွေအတွက် သုံးစွဲခြင်းသာဖြစ်သည်။ အကြော
င်းမှာ ထိုကဲ့သို့ သုံးစွဲခြင်းတွင် ကူညီ၊ထောက်ပံ့ မှုအတွက်
စဝါးဗ်လည်းရသလို သာသနာ့ပညာကို ရှင်သန်အောင်လုပ်
ခြင်း အတွက်လည်း စဝါးဗ်ရပေဦးမည်။

အီးဒ်နစ်ခုရဲ့ သက်ဝီးရ်များ..။

အီးဒွလ်ဖိသ်ရ် နှင့် အီးဒွလ်အဒ္ဓဟာ ရဲ့ နမားဇ်သည့် သက်ဗီးရ် အပို ၆ကြိမ် နှင့်တကွ (၂)ရက်အသ် ဖြစ်သည်။ ပထမ ရကအသ်တွင် စနာ အပြီး ကေရာအသ် မဖတ်ခင်အလျင် သက်ဗီးရ် အပို (၃)ကြိမ်ဆိုရသည်။ ဒုတိယ ရက်အသ် တွင် ဦးစွာ ကေရာအသ်ဖတ်ပြီး သက်ဗီးရ် အပို (၃)ကြိမ် ဆို၍ တဖန်ရှုကူးအ်အတွက်သက်ဗီးရ်ဆိုလျက်ရိုကူးအ်သွားရမည်။

ပထမ ရက်အသ်တွင် သက်ဗီးရ် သဟ်ရီမဟ်ဆို၍ စနာဖတ် အပြီး ချက်ချင်း သက်ဗီးရ် အပိုများဆိုရပေသည်။ ဒုတိယ ရကအသ်တွင် ထိုသက်ဗီးရ် အပိုများဆို၍ ချက်ချင်း ရိုကူးအ် ရဲ့ သက်ဗီးရ် ဆိုရပေသည်။ ဒါကြောင့် ထိုဆက်နွယ်မှုကို ထောက်ရှုကြည့်မယ်ဆိုရင် ပထမ ရက်အသ် တွင် သက်ဗီးရိ သဟ်ရီမဟ် ထည့်ပေါင်း၍ သက်ဗီးရ် (၄)ကြိမ် ဖြစ်သွား သည်။ ဒုတိယ ရက်အသ် တွင် ရိုကူးအ် ရဲ့ သက်ဗီးရ် ထည့် ပေါင်း၍ သက်ဗီးရ် (၄)ကြိမ် ဖြစ်သွားသည်။ ဒါဆို ရကအသ် တစ်ခုတိုင်းတွင် သက်ဗီးရ် (၄)ကြိမ်စီ ဖြစ်သွားပေမည်။

တချို့ဆင့်ပြန်ချက်များအရ.. ပထမ ရက်အသ်တွင် သက်ဗီးရိ သဟ်ရီမဟ်၊ သက်ဗီးရ် အပို (၃)ကြိမ်နှင့် ရှုကူးအ်၏ သက်ဗီး ရ် ပေါင်း၍ အားလုံး (၅)ကြိမ် ဖြစ်သွားပေမည်။ ဒုတိယ ရက အသ်တွင် သက်ဗီးရ် အပို (၃)ကြိမ်နှင့် ရိုကူးအ် ရဲ့ သက်ဗီး ရ် ပေါင်း၍ (၄)ကြိမ်ဖြစ်သွားပေမည်။ စုစုပေါင်း သက်ဗီးရ် အားလုံး၏ အရေအတွက်ဟာ (၉) ကြိမ်ဖြစ်သွားပေမည်။ မည်သို့ပင် ရေတွက်စေကာမူ သက်ဗီးရ် အပိုကတော့ (၆)ကြိမ်သာဖြစ်ပါသည်။

:1 عَنِ الْقَاسِمِ اَبِی عَبْدِالرَّحْمٰنِ قَالَ حَدَّثَنِیْ بَعْضُ اَصْحَابِ رَسُوْلِ اللّٰهِ صَلَّی اللّٰهُ عَلَيْهِ وَسَلَّمَ قَالَ صَلّٰی بِنَا النَّبِیُّ صَلَّی اللّٰهُ عَلَيْهِ وَسَلَّمَ يَوْمَ عِيْدٍ فَكَبَّرَ اَرْبَعًا وَاَرْبَعًا ثُمَّ اَقْبَلَ عَلَيْنَا بِوَجْهِهٖ حِيْنَ انْصَرَفَ فَقَالَ لَاتَنْسَوْا كَتَكْبِيْرِ الْجَنَائِزِ وَاَشَارَ بِاَصَابِعِهٖ وَقَبَضَ اِبْهَامَهٗ۔
(شرح معانی الآثار ج2 ص 371 باب صلوۃ العیدین کیف التکبیرفیھا؟)

အဓိပ္ပါယ်. :
ဟဇ်ရသ် အဗူ အဗ်ဒွ်ရ်ရဟ်မာန် ကာစင်မ် အမိန့်ရှိသည်မှာ..
ကျွန်ုပ်ကို တမန်တော်မြတ် (ﷺ) ၏ ဆွဟာဗီတချို့က ပြောပြသည်မှာ....

တမန်တော်မြတ် (ﷺ) သည် ကျွန်ုပ်တို့ကို အီးဒ်နမားဇ် ဖတ်ပေးသည့်အခါ သက်ဗီးရ် (၄)ကြိမ်၊(၄)ကြိမ်စီ ဆိုပေသည်။ နမားဇ်ပြီးသွားသည့်အခါ ကျွန်ုပ်တို့ဘက်သို့ မျက်နှာမူလျက် အမိန့်ရှိသည်မှာ.. အီးဒ်နမားဇ်ဟာ ဂျနာဇဟ် နမားဇ်ကဲ့သို့ သက်ဗီးရ် (၄)ကြိမ်စီ ဆိုသည်ကို မမေ့ကြနှင့်။ တမန်တော်မြတ် (ﷺ) သည် မိမိရဲ့ လက်ချောင်းများကို ထောင်ပြ၍ လက်မကို ဆုပ်ကွေးလိုက်၏။

:2 عَنْ مَكْحُوْلٍ قَالَ اَخْبَرَنِیْ اَبُوْ عَائِشَةَ جَلِيْسٌ لِّاَبِیْ هُرَيْرَةَ: اَنَّ سَعِيْدَ بْنَ الْعَاصِ رَضِیَ اللّٰهُ عَنْهُ سَأَلَ اَبَامُوْسٰی الْاَشْعَرِیَّ وَحُذَيْفَةَ بْنَ الْيَمَانِ رَضِیَ اللّٰهُ عَنْهُمَا كَيْفَ كَانَ رَسُوْلُ اللّٰهِ صَلَّی اللّٰهُ عَلَيْهِ وَسَلَّمَ يُكَبِّرُ فِی الْاَضْحٰی وَالْفِطْرِ فَقَالَ اَبُوْ مُوْسٰی رَضِیَ اللّٰهُ عَنْهُ كَانَ يُكَبِّرُاَرْبَعًا تَكْبِيْرَةً عَلَی الْجَنَائِزِ فَقَالَ حُذَيْفَةُ رَضِیَ اللّٰهُ عَنْهُ صَدَقَ فَقَالَ اَبُوْمُوْسٰی كَذٰلِكَ كُنْتُ اُكَبِّرُ فِی الْبَصْرَةِ حَيْثُ كُنْتُ عَلَيْهِمْ۔

(سنن ابی داؤد ج1 ص170باب التکبیر فی العیدین ،السنن الکبریٰ للبیہقی ج3ص 289)

အဓိပ္ပါယ်. :
ဟဇ်ရသ် မက်ဟူးလ် (رضی اللہ عنہ) အမိန့်ရှိသည်..။
ကျွန်ုပ်ကို ဟဇ်ရသ် အဗူ ဟိုရိုင်ရဟ် (رضی اللہ عنہ) ၏ ထံပါး၌ သွားလာနေထိုင်သူ ဟဇ်ရသ် အဗူ အာအေရှဟ် (رضی اللہ عنہ) က ဟဇ်ရသ် စအီးဒ် ဗင်န် အလ်အားစ္စ် (رضی اللہ عنہ) ၏ ဆင်ပြန့်ချက်ကို ပြောပြသည်မှာ....

ကျွန်ုပ်သည် ဟဇ်ရသ် အဗူ မူစာ အရှ်အရီ နှင့် ဟဇ်ရသ် ဟိုဇိုင်ဖွဟ် ဗင်န် ယမားန် (رضی اللہ عنہما) သခင်နှစ်ပါးအား တမန်တော်မြတ် (ﷺ) သည် အီးဒွလ်အဒ္ဓဟာ နှင် အီးဒွလ်ဖိသ်ရ် ၌ သက်ဗီးရ် အကြိမ်မည်မျှဆိုပါသနည်းဟု မေးမြန်းရာ..ဟဇ်ရသ် အဗူ မူစာ အရှ်အရီ (رضی اللہ عنہ)က ဖြေကြားသည်မှာ.. အသင်ဂျနာဇဟ်မှာ ဆိုရသကဲ့သို့ (၄) ကြိမ်ဖြစ်သည်။

ဟဇ်ရသ် ဟိုဇိုင်ဖွဟ် (رضی اللہ عنہ)ကလည်း ထိုအဖြေမှာ မှန်ကန်သည်ဟု မိန့်တော်မူသည်။ ဟဇ်ရသ် အဗူ မူစာ အရှ်အရီ (رضی اللہ عنہ) က တဖန်အမိန့်ရှိသည်မှာ.. ကျွန်ုပ် ဗစ္စ်ရဟ်ပြည်ရဲ့ ပြည်နယ်အုပ်ချုပ်ရေးမှူး လုပ်ခဲ့စဉ်အခါကလည်း ဖော်ပြပါပုံစံအတိုင်း သက်ဗီးရ် ဆိုခဲ့သည်။

:3 عَنْ عَلْقَمَۃَ وَالْاَسَوَدِ بْنِ یَزِیْدَ قَالَا کَانَ ابْنُ مَسْعُوْدٍ رَضِیَ اللّٰہُ عَنْہُ جاَلِسًا وَعِنْدَہٗ حُذَیْفَۃُ وَاَبُوْمُوْسٰی رَضِیَ اللّٰہُ عَنْھُمَا فَسَأَلَھُمْ سَعِیْدُ بْنُ الْعَاص رَضِیَ اللّٰہُ عَنْہُ عَنِ التَّکْبِیْرِ فِی الصَّلٰوۃِ یَوْمَ الْفِطْرِ وَالْأَضْحٰی فَجَعَلَ ھٰذَا یَقُوْلُ: سَلْ ھٰذَا وَ ھٰذَا یَقُوْلُ:سَلْ ھٰذَا حَتّٰی قَالَ لَہٗ حُذَیْفَۃُ رَضِیَ اللّٰہُ عَنْہُ سَلْ ھٰذَا لِعَبْدِاللّٰہِ بْنِ مَسْعُوْدٍ رَضِیَ اللّٰہُ عَنْہُ فَسَأَلَہٗ فَقَالَ ابْنُ مَسْعُوْدٍ رَضِیَ اللّٰہُ عَنْہُ یُکَبِّرُ اَرْبَعًا ثُمَّ یَقْرَأُ ثُمَّ یُکَبِّرُ فَیَرْکَعُ ثُمَّ یُکَبِّرُ فِی الثَّانِیَۃِ فَیَقْرَأُثُمَّ یُکَبِّرُ اَرْبَعًا بَعْدَ الْقِرَائَۃِ۔
(المعجم الکبیر للطبرانی ج4 ص 593 رقم 9402،مصنف عبدالرزاق ج3ص167،رقم 5704)

အဓိပ္ပါယ်.. :
ဟာဇ်ရတ် အလ်ကာမဟ် နှင့် ဟာဇ်ရတ် အစ်ဝက်ဒ် ဗင်န် ယဇီး ဒ် (رضی اللہ عنہما) သခင်နှစ်ပါး ပြောပြသည်မှာ.. တရံသော အခါ ဟာဇ်ရတ် အဗ်ဒွလ္လာဟ် ဗင်န် မက်စ်အူးဒ် (رضی اللہ عنہ) ထိုင်နေလေသည်။ ဟာဇ်ရတ် ရဲ့ ထံပါး၌ ဟာဇ်ရတ် ဟိုဇိုင်ဖွဟ် နှင့် ဟာဇ်ရတ် အဗူမူစာ (رضی اللہ عنہما) သခင်နှစ်ပါး လည်း ရှိနေပေသည်။ ထိုအချိန်တွင် ဟာဇ်ရတ် စအီးဒ် ဗင်န် အလ်အားစ္စ် (رضی اللہ عنہ) သခင်က အီးဒွလ်ဖိသ်ရ် နှင့် အီး ဒွလ်အဒ္ဓဟာ တို့ရဲ့ သက်ဗီးရ်နှင့်စပ်လျဉ်းပြီး မေးမြန်းရာ.. ဟာဇ်ရတ် ဟိုဇိုင်ဖွဟ် (رضی اللہ عنہ)သခင်က ဒီမေးခွန်းကို ထိုသူ (ဟာဇ်ရတ် အဗူမူစာ) အားမေးပါလေ ဟုပြောလေ သည်။ ဟာဇ်ရတ် အဗူမူစာ (رضی اللہ عنہ) သခင်ကလည်း ဒီမေးခွန်းကို ထိုသူ(ဟာဇ်ရတ် ဟိုဇိုင်ဖွဟ်) အားမေးပါလေ ဟု ပြောပြန်သည်။

နောက်ဆုံး ဟာဇရသ် ဟိုဇိုင်ဖွဟ် (رضی اللہ عنہ) သခင်က ဒီမေးခွန်းကို ဟာဇရသ် အဗ်ဒွလ္လာဟ် ဗင်န် မက်စ်အူးဒ် (رضی اللہ عنہ) သခင်ကိုသာ မေးမြန်းပါလေဟု ပြောသဖြင့် ဟာဇရသ် အား မေးမြန်းရာ.. ဟာဇရသ် က အမိန့်ရှိသည်မှာ..... သက်ဗီးရ် (၄)ကြိမ်ဆိုပါ.(သက်ဗီးရိ သဟ်ရီမဟ် တစ်ကြိမ်၊ အပိုသက်ဗီးရ် သုံးကြိမ်).။ ထို့နောက် ကေရာအသ် ဖတ်ပါ။ ထို့နောက် သက်ဗီးရ် ဆိုလျက် ရိုကူးအ် သွားပါ။ ဒုတိယ ရက်အသ် တွက် သက်ဗီးရ် ဆိုပါ။ ပြီးနောက် ကေရာအသ် ဖတ်ပါ။ ပြီးနောက် သက်ဗီးရ် (၄)ကြိမ်ဆိုပါ။ (အပိုသုံးကြိမ်နှင့် ရိုကူးအ် အတွက် တစ်ကြိမ်)

:4 عَنْ كُرْدُوْسٍ قَالَ:اَرْسَلَ الْوَلِيْدُاِلٰى عَبْدِ اللّٰهِ بْنِ مَسْعُوْدٍ وَ حُذَيْفَةَ وَ اَبِىْ مَسْعُوْدٍ وَ اَبِىْ مُوْسٰى الْاَشْعَرِىِّ بَعْدَ الْعَتَمَةِفَقَالَ: اِنَّ ہٰذَا عِيْدُالْمُسْلِمِيْنَ،فَكَيْفَ الصَّلٰوةُ؟ فَقَالُوْا:سَلْ اَبَا عَبْدِ الرَّحْمٰنِ فَسَاَلَہٗ فَقَالَ:يَقُوْمُ فَيُكَبِّرُ اَرْبَعًا ثُمَّ يَقْرَئُ بِفَاتِحَةِ الْكِتَابِ وَ سُوْرَةٍ مِّنَ الْمُفَصَّلِ ثُمَّ يُكَبِّرُ وَ يَرْكَعُ فَتِلْكَ خَمْسٌ ثُمَّ يَقُوْمُ فَيَقْرَئُ بِفَاتِحَةِ الْكِتَابِ وَسُوْرَةٍ مِّنَ الْمُفَصَّلِ ثُمَّ يُكَبِّرُ اَرْبَعًا يَرْكَعُ فِىْ آخِرِہِنَّ فَتِلْكَ تِسْعٌ فِى الْعِيْدَيْنِ فَمَا اَنْكَرَہٗ وَاحِدٌ مِّنْہُمْ۔

(المعجم الكبير للطبرانی: ج4 ص393,392 رقم الحديث9400)

အဓိပ္ပါယ်.. :

ဟာဇရသ် ကုရ်ဒူးစ် (رضی اللہ عنہ) ရဲ့ဆင့်ပြန်ချက်လာရှိသည်။ ဟာဇရသ် ဝလီးဒ်ဗင်န် အုက်ဗဟ် သည် ဟာဇရသ် အဗ်ဒွလ္လာဟ် ဗင်န် မက်စ်အူးဒ်၊ ဟာဇရသ် ဟိုဇိုင်ဖွဟ်၊ ဟာဇရသ် အဗူ မက်စ်အူးဒ် နှင့် ဟာဇရသ် အဗူမူစာ အရှ်အရီ (رضی اللہ عنہم) တို့ထံပါးသို့ ညရဲ့ သုံးပုံတစ်ပုံ ကျော်လွန်ပြီးချိန်၌

စာချွန်လွှာပို့၍ ဒါဟာ မုစ်လင်မ်တွေ အတွက် အီးဒ်နေ့ဖြစ်သည်။ ထို့ကြောင့် အီးဒ်နမားဇ် မည်သို့ဖတ်ရမည်နည်း ဟု မေးမြန်းရာ.. ထိုဟာဇ်ရသ်အားလုံးက ဒီမေးခွန်းကို ဟာဇ်ရသ် အဗ်ဒွလ္လာဟ် ဗင်န် မက်စ်အူးဒ် (رضى الله عنه)ထံသို့ မေးပါ ဟု ပြောလေသည်။

ကိုယ်စားလှယ် (စာချွန်လွှာ ယူလာသူ) က ဟာဇ်ရသ် အဗ်ဒွလ္လာဟ် ဗင်န် မက်စ်အူးဒ် (رضى الله عنه) အားမေးမြန်းရာ. ဟာဇ်ရသ်က အဖြေပေးသည်မှာ.မက်တက်ရပ်လျက် သက်ဗီး ရ် (၄)ကြိမ်ဆိုပါ။ (သက်ဗီးရီ သဟ်ရီမဟ် တစ်ကြိမ်၊ အပို သုံးကြိမ်) ပြီးနောက် စူရဟ်ဖွာသိဟာဟ် ဖတ်၍ မုဖက်စွလ် စူရဟ်တစ်ပုဒ် တွဲပါ။ထို့နောက် သက်ဗီးရ် ဆို၍ ရှုကူးအ် သွား လိုက်ပါ။ ဒါဆိုရင် (၅)ကြိမ် ဖြစ်သွားပါလိမ့်မည်။

ထို့နောက် (ဒုတိယ ရက်အသ် အတွက်) ပြန်ရပ်ပါ။ စူရဟ် ဖာသိဟာဟ် နှင့် မုဖက်စွလ် စူရဟ်တစ်ပုဒ် တွဲပါ။ ထို့နောက် သက်ဗီးရ် (၄)ကြိမ်ဆို၍ နောက်ဆုံး (စတုတ္ထ မြောက်) သက်ဗီးရ် ဆိုအပြီးတွင် ရှုကူအ် သွားပါ။ အီးဒွလ်ဖိသ်ရ် နှင် အီးဒွလ်အဒ္ဓဟာ တွင် သက်ဗီးရ် (၉) ကြိမ် ဖြစ်သွားလိမ့်မည်။ ထိုအချိန်တွင် မည့်သည့် ဟာဇ်ရသ် တစ်ဦးတစ်ယောက်ကမှ ဤမိန့်ဆိုချက်အဖြေကို မငြင်းခဲ့ပေ။.

(ဤသည်မှာ ထိုဟာဇ်ရသ်များဘက်မှ ဤအဖြေကို အကောင်းဆုံး၊အမှန်ကန်ဆုံး ပုံစံဖြင့် ထောက်ခံလိုက်ခြင်း ဖြစ်သည်)

(5). ဟဇ္ဇရသ် အုမရ်ဖာရူးက် (رضى الله عنه) သခင်ရဲ့ အုပ်ချုပ်မှု ခိလာဖသ် သက်တမ်းတွင် ဂျနာဇဟ် နမားဇ်၌ သက်ဗီးရ် (၄)ဖြစ်ကြောင်း ဆွဟာဗဟ် အားလုံး အကွဲအလွဲ မရှိ အတည်ပြုခဲ့သည်။ ဟဒီးစ်ရဲ့ စာသားမှာ....

فَاجْمَعُوا اَمْرَهُمْ عَلٰى اَنْ يَجْعَلُوا التَّكْبِيْرَ عَلَى الْجَنَائِزِ مِثْلَ التَّكْبِيْرِ فِى الْاَضْحىٰ وَالْفِطْرِ اَرْبَعَ تَكْبِيْرَات۔

(شرح معانی الآثار ج1ص319 باب التکبیر علی الجنائز کم هو ؟)

အဓိပ္ပါယ်.. : သို့ရှိရာ ထိုသူတို့ (ဆွဟာဗဟ် တို့) သည် အီးဒွလ်ဖိသ်ရ် နှင့် အီးဒွလ်အဒ္ဓွဟာ တို့၏ သက်ဗီးရ် (၄) ကြိမ်ကဲ့သို့ ဂျနာဇဟ် နမားဇ်တွင်လည်း သက်ဗီးရ် (၄)ကြိမ် ဖြစ်ခြင်း အမိန့်အပေါ်၌ တစ်ထပ်တည်း၊တစ်သားတည်း ဖြစ်ခဲ့ကြသည်။

၆။ ။

عن ابن مسعود رضي الله عنه: في الاولي خمس تكبيرات بتكبيرة الركعة وبتكبيرة الاستفتاح وفي الركعة (الاخري) اربعة بتكبيرة الركعة. (مصنَف عبد الرَزَاق: ج3 ص 166 رقم الحديث 5702 باب التكبير في صلوة العيد )

ဟဇ္ဇရသ် အဗ်ဒုလ္လာဟ်ဗင်န်မတ်စ်အူးဒ်(رضي الله عنه) အမိန့်ရှိသည်မှာ အီးဒ်နမားဇ်၏ ပထမရက်အသ်တွင် ရကူးအ်နှင့် သဟ်ရီမဟ်၏ သက်ဗီးရ်ကို ပေါင်းလျက် သက်ဗီးရ်၅ကြိမ် ဖြစ်သည်။ ထို့ပြင် ဒုတိယရက်အသ်တွင် ရကူးအ်၏သက်ဗီးရ်ကို ပေါင်းလျက် သက်ဗီးရ်၄ကြိမ် ဖြစ်သည်။(အချုပ်ဆိုရလျှင် ရက်အသ်တိုင်းတွင် သက်ဗီးရ်အပို၃ကြိမ် ဖြစ်သည်။)

၇။ ।

عن عبدالله بن الحارث انّه صلّي خلف ابن عبّاس رضي الله عنهما في العيد فكبّر اربعا ثمّ قرأ ثمّ كبّر فركع ثمّ قام في الثانية فقرأ ثمّ كبّر ثلاثا ثمّ كبّر فركع.

(سنن الطحاوي: ج2 ص372باب التكبير علي الجنائز كم هو؟)

ဟဇ်ရသ် အဗ်ဒုလ္လာဟ်ဗင်န်ဟာရိစ်(رحمه الله)သည် ဟဇ်ရသ် အဗ်ဒုလ္လာဟ်ဗင်န်အဗ္ဗာ့းစ်(رضي الله عنهما)၏ နောက်မှ အီးဒ်နမားဇ် ဝတ်ပြုခဲ့သည်။ ဟဇ်ရသ် အဗ်ဒုလ္လာဟ်ဗင်န်အဗ္ဗာ့းစ်(رضي الله عنهما)က ပထမ သက်ဗီးရ်၄ကြိမ် ဆိုသည်၊ ထို့နောက် ကိရာအသ်ဖတ်သည်၊ ထို့နောက် သက်ဗီးရ်ဆိုလျက် ရုကူးအ်ပြုလုပ်သည်။ ထို့နောက် သခင်ကြီးသည် ဒုတိယရက်အသ်အတွက် မတ်တပ်ရပ်သောအခါ ပထမ ကိရာအသ်ဖတ်သည်၊ ထို့နောက် သက်ဗီးရ်၃ကြိမ်ဆိုသည်၊ ထို့နောက် (စတုတ္ထ)သက်ဗီးရ် ဆိုလျက် ရုကူးအ်ပြုလုပ်ခဲ့သည်။

အီးဒ်နှစ်အီးဒ်ရဲ့ သက်ဗီးရ် တွေမှာ လက်မြှောက်ရခြင်းအတွက် အထောက်အထားများ..။

______________ ~~______________

အီးဒ်နမားဇ်၌ သက်ဗီးရ်များဖတ်ခြင်းနှင့် အတူ (ရဖ်အေ့ယဒိုင်းန်) လက်မြှောက်ရပါသည်။ သက်သေအထောက်အထားများ လေ့လာဖတ်ရှုကြည့်ကြပါစို့..။

အထောက်အထား နံပါတ် (၁)

عَنْ اِبْرَاہِیْمَ النَّخعِیِّ اَنَّہٗ قَالَ: تُرْفَعُ الْاَیْدِیْ فِیْ سَبْعِ مَوَاطِنَ؛فِی افْتِتَاحِ الصَّلٰوۃِ وَ فِی التَّکْبِیْرِ لِلْقُنُوْتِ فِی الْوِتْرِ وَ فِی الْعِیْدَیْنِ وَ عِنْدِ اسْتِلَامِ الْحَجَرِ وَ عَلَی الصَّفَا وَ الْمَرْوَۃِ وَ بِجَمْعٍ وَعَرَفَاتٍ وَ عِنْدَ الْمَقَامَیْنِ عِنْدَ الْجَمْرَتَیْنِ۔

(سنن الطحاوی:ج1ص417 باب رفع الیدین عند رویۃ البیت)

အဓိပ္ပါယ်.. : ကြီးကျယ်သော သာဗေ့အီ ဟဇ်ရသ် အစ်ဗ်ရာဟီးမ် နခ်အီ အမိန့်ရှိသည်မှာ... နေရာ (၇)ခုတွင် (ရဖ်အွလ်ယဒိုင်းန်) လက်မြှောက်ခြင်း ပြုလုပ်ရပေမည်။

(၁) နမားဇ် အစပြုချိန် (သက်ဗီးရ် သဟ်ရီမဟ် ဆိုချိန်)

(၂) ဝိသ်ရ်နမားဇ်၌ ဒိုအာကိုနူးသ်ဖတ်ရန် သက်ဗီးရ် ဆိုချိန်.

(၃) အီးဒ်နှစ်အီးဒ်တွင်

(၄) ဟဂျ်ရေ့ အက်စ်ဝဒ် အား အစ်သိလာမ်း နမ်းသည့်အခါ

(၅) စွဖါ၊ မရ်ဝဟ် တောင်ပေါ်၌ ရှိစဉ်

(၆) မုဇ်သလိဖဟ်၊ အရ်ဖါးသ် ၌ ရှိစဉ်

(၇) ဂျမ်ရဟ် (ခဲပေါက်ရသည့်တိုင်) နှစ်ခု အနားတွင် ရှိနေစဉ်

အထောက်အထား နံပါတ် (၂)

وَاتَّفَقُوْا عَلٰى رَفْعِ الْيَدَيْنِ فِى التَّكْبِيْرَاتِ۔
(مرقاة المفاتيح لعلى القارى: ج 3ص495 باب صلاة العيدين )

အဓိပ္ပါယ်.: ဖိကဟ် ဓမ္မသတ် ပညာရှင် များ ထံတွင် အီးဒ်နှစ် အီးဒ်၏ သက်ဗီးရ် တွေမှာ လက်မြှောက်ခြင်း အကွဲအလွဲမရှိ တစ်ညီတစ်ညွတ်ထဲ အတည်ဖြစ်သည်။

အထောက်အထား နံပါတ် (၃)

وَاتَّفَقُوْا عَلٰى رَفْعِ الْيَدَيْنِ فِى التَّكْبِيْرَاتِ۔
( رحمة الامة فى اختلاف الائمة: ص63)

အဓိပ္ပါယ်.. : အေမာမ်ကြီး၊ ဖိကဟ် ပညာရှင်ကြီးများထံတွင် အီးဒ်နှစ်အီးဒ်၏ သက်ဗီးရ်များ ဆိုချိန်၌ လက်မြှောက်ကြောင်း တစ်ထပ်တည်း အတည်ဖြစ်ထားသည်။

အထောက်အထား နံပါတ် (၄)

وَاَجْمَعُوْاعَلٰى اَنَّہٗ يُرْفَعُ الْاَيْدِیْ فِى تَكْبِيْرِ الْقُنُوْتِ وَ تَكْبِيْرَاتِ الْعِيْدَيْنِ
(بدائع الصنائع للكاسانى: ج1ص484 ، رفع اليدين فى الصلوة)

အဓိပ္ပါယ်.. : ဖုကဟာအေ့ကီရားမ် ဓမ္မသတ် ပညာရှင်ကြီးများသည် ဝိသ်ရ်၌ ဒိုအာကိုနူးသ်ဖတ်ရန် သက်ဗီးရ် ဆိုချိန်နှင့် အီးဒ်နှစ်အီးဒ်ရဲ့ သက်ဗီးရ်များ ဆိုချိန်တွင် လက်မြှောက်ရမည် ဟု အိဂ်ျမားအ် တစုတစည်းတည်း အမိန့်ရှိထားသည်။

Note..: ပုံမှန်နမားဇ်များတွင် နမားဇ်အစပြုရိုန်တွင်သာ (ရဖ်အွလ်ယဒိုင်းန်) လက်မြှောက်ရသည်။ ကျန်နေရာများတွင် လက်မြှောက်စရာ မလိုပေ။ ထိုအရာနှင့်စပ်လျဉ်း၍ အထောက်အထား များကို ကျွန်ုပ် တို့ ပြုစု စီစဉ်အပ်သော (နမားဇ်အတွင်း လက်မမြှောက်ခြင်းရဲ့ အထောက်အထားများ) အမည်ရှိ ပိုစတာ စာဆောင်တွင် လေ့လာဖတ်ရှုကြပါဟု မေတ္တာရပ်ခံ ပါသည်။

ပုံမှန်နမားဇ်များအတွက် ပုံမှန်အများဆိုင် အထောက်အထားများအရ လက်မမြှောက်ပါ။ သီးသန့်နမားဇ်များအတွက် ၎င်းနမားဇ် တို့၏ သက်ဆိုင်ရာ သီးသန့် အထောက်အထားများအရ လက်မြှောက်ရပေသည်။

# ပြန်ဆိုသူ

Ahnaf Media Services-Myanmar ဝိုင်းတော်သားများ

(ဟိဂ်ျရီ သက္ကရာဇ် ၁၄၄၀ ခုနှစ် ဇုလ်ဟဂ်ျလ ၁၄ ရက်)
(ခရစ် သက္ကရာဇ် ၂၀၁၉ ခုနှစ် ဩဂုတ်လ ၆ ရက်)